



# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

## ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၄၀၂/၂၀၀၀    ၂၀၀၀ပြည့်နှစ်၊ ဇူလိုင် လ ၃၂ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦး ခင်မောင်မြင့်

(ခ) အဘအမည် ဦး ရန်ကျွမ်း ကြည်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၃/တကန(နိုင်)၀၆၇၂၉၂

(ဃ) နေရပ်လိပ်စာ အမှတ်(၅၂၅)၊ ကုန်သည်လမ်း ၊ ကျောက်တံတား
မြို့နယ်၊ ရန်ကုန်မြို့

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း ဟုန်ပန်း ဆောက်လုပ်
ရေး ကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ကျိုင်းတုံ-တာချီလိတ်ကားလမ်း
အားတည် ဆောက်ပြုပြင် ဖောက်လုပ်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ၊ တာချီလိတ်
ပြည် ထောင်စုလမ်း မကြီး (ကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်း) ၊ ရှမ်းပြည်
နယ်အရှေ့ပိုင်း ၊ မိုင်တိုင်၁၉၇/၄မှ၄၉၉/၆အထိ

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) (၃၁၈၀.၀၀)သန်း (ကျပ်သန်း သုံး ထောင်တစ်ရာ့ ရှစ်ဆယ်တိတိ)

ခင်မောင်

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့် ကြော်ငြာစာအမှတ်၊ ၃၃၂/၂၀၀၀ (မနသ)
ရန်ကုန်မြို့၊ ၁၃၆၂ ခုနှစ်၊ ဝါဆိုလဆန်း ၁၂ ရက်
(၂၀၀၀ ပြည့်နှစ်၊ ဇူလိုင်လ ၁၂ ရက်)

၁။ မြန်မာကုမ္ပဏီဖြစ်သော ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Hong Pang Construction Co., Ltd.)မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင် မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ–တာချီလိတ် ပြည်ထောင်စု လမ်းမကြီး (ကျိုင်းတုံ–တာချီလိတ်လမ်းအပိုင်း) မိုင်တိုင်အမှတ် ၃၉၇/၄ မှ ၄၉၉/၆ အထိ (၁၀၂)မိုင် (၂)ဖာလုံ ရှည်သော လမ်းအပိုင်းကို ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၄–၄–၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၁၃/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၆–၅–၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်သည့် ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ (၇/၂၀၀၀) ကြိမ် မြောက် အစည်းအဝေးသို့ ဆက်လက် တင်ပြခဲ့ပါသည်။ အဆိုပါ အစည်းအဝေး သဘောတူညီချက်အရ (၂၉–၆–၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်သည့် ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့၏ (၂၄/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ် ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Hong Pang Construction Co., Ltd.)အား မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ–တာချီလိတ် ပြည်ထောင်စုလမ်းမကြီး (ကျိုင်းတုံ–တာချီလိတ်လမ်းအပိုင်း) တို့ကို ပြုပြင်ဖောက်လုပ်၍ လမ်းတံတား အသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ– ၄၀၂/၂၀၀၀ ကို ထုတ်ပေး လိုက်သည်။

၂။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Hong Pang Construction Co., Ltd.)အနေဖြင့် ဤ ခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ဝန်ဆောင်မှု လုပ်ငန်းစတင်သော နှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် ဥပဒေ ပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်များနှင့်အညီ အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည်။

(က) ဥပဒေ ပုဒ်မ ၁၃(က) အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏ အပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြား ငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကိုဖော်ပြလျက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေ ပုဒ်မ ၁၃(ခ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှုပြုသည့်အခါ လုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်မှုအခြေအနေကိုဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

c2368 11/7 ဦ800 12/7

အထွေထွေ အရပ်ရပ် – ၁၆

( ရုံးတွင်းက အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

အကြောင်းအရာ။ ။ <u>ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်း အား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း ကိစ္စ။</u>

၁။ မြန်မာကုမ္ပဏီဖြစ်သော ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် ( Hong Pang Construction Co., Ltd ) မှ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း ပိုင်မိတ္ထီလာ၊ တောင်ကြီး ကျိုင်းတုံ-တာချီလိတ်ပြည်ထောင်စုလမ်းမကြီး (ကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်း) မိုင်တိုင်အမှတ်၊ ၃၉၇/၄မှ၄၉၉/၆အထိ (၁၀၂) မိုင် (၂) ဖာလုံရှည်သော လမ်းအပိုင်းကိုပြုပြင်ဖောက်လုပ်၍ လမ်းတံတားအသုံးပြုခများ ကောက်ခံခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၄-၄-၂၀၀၀) နေ့တွင် ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ပါသည်။

၂။ ကော်မရှင်မှ မူအားဖြင့် သဘောတူညီခဲ့ပြီး (၂၆-၅-၂၀၀၀) နေ့တွင်ကျင်းပသော ကုန်သွယ်မှုမူဝါဒကောင်စီ၏ (၇/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ဆက်လက်တင်ပြခဲ့ပါသည်။ အဆိုပါအစည်းအဝေးမှ သဘောတူညီချက်အရ အစိုးရအဖွဲ့သို့ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်နှင့်အညီ (၂၉-၆-၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သည့်ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏ (၂၄/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂/-

အထွေထွေ အရပ်ရပ် – ၁၆

( ရုံးတွင်းက အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

၃။ သို့ဖြစ်ပါ၍မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း (၅) ပုဒ်မ ၁၈ နှင့်ယင်းဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း (၄) အပိုဒ် (၁၂) တို့နှင့်အညီဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သို့ထုတ်ပေးမည့် ခွင့်ပြုမိန့်နှင့်အမိန့်ကြော်ငြာစာ တွင်လက်မှတ်ရေးထိုးနိုင်ပါရန်ပြုစုတင်ပြအပ်ပါသည်။

၁၁-၇-၂၀၀၀

ဥက္ကဋ္ဌ

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရက-၁/ မ- ၁၁၃၆/ ၂၀၀၀ (၁၀၅၇-၆)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဇွန်လ၂၀ရက်။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့သို့
တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် မှ ကျိုင်းတုံ-တာချီလိတ် ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Hong Pang Construction Co., Ltd.) မှ ကျိုင်းတုံ-တာချီလိတ် ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၆-၃-၂၀၀၀) နေ့နှင့် (၂၄-၄-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၀၀) ကြိမ်နှင့် (၁၃/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးများသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ ယင်း ဆုံးဖြတ်ချက်အရ (၂၆-၅-၂၀၀၀)နေ့တွင် ကျင်းပပြုလုပ်ခဲ့သည့် ကုန်သွယ်မှု မူဝါဒကောင်စီ၏ (၇/၂၀၀၀) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ မူအားဖြင့်သဘောတူပြီး အစိုးရအဖွဲ့ **သို့** ဆက်လက်တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်း ဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေဆိုင်း ငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း)၊ ဧရှနေချုပ်ရုံး သဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် ပေးပို့ထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၃၀,၀၀)သန်း အပါအဝင်စုစုပေါင်း ကျပ် (၃၁၈၀,၀၀)သန်း ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာ၊ ကုန်ကြမ်းနှင့် ငွေသားများကို မလေးရှားနိုင်ငံ Euro Tech Engineering and Machinery Sdn Bhd မှရွှေဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး၊ ဟစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၁၇)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းကုမ္ပဏီသည် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ၊ တာချီလိတ် ပြည်ထောင်စု လမ်းမကြီး (ကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်း) မိုင်တိုင်အမှတ် ၃၉၇/၄ မှ ၄၉၉/၆ အထိ (၁၀၂)မိုင် (၂)ဖာလုံ ရှည်သော လမ်းအပိုင်းကို တည်ဆောက်၊ ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ဟုန်ပန်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်နှင့် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

- လုပ်ငန်းသက်တမ်းမှာ ကနဦး နှစ် (၃၀)ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် ရှိပါသည်။
- လမ်းနယ်နိမိတ်မှာ ကျေးရွာများအတွင်း ဖြတ်သန်းသည့်နေရာများနှင့် မြို့တွင်းလမ်းများမှအပ အကျယ် ပေ (၂၀၀) နှင့် အရှည် (၁၀၂)မိုင် (၂)ဖါလုံ ရှိပါသည်။
- လမ်းတံတားအသုံးပြုခ ကောက်ခံမည့်ဂိတ်များမှာ ကျိုင်းတုံ၊ မိုင်းဖြတ်၊ တာလေ၊ တာချီလိတ် တို့ဖြစ်ပါသည်။
- နိုင်ငံတော်သို့ ပေးသွင်းရမည့် လမ်းတံတားခနွှန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | စုစုပေါင်း လမ်းတံတား အသုံးပြုခ ကောက်ခံရငွေ၏ |
|---|---|
| - ပထမနှစ်မှ (၃)နှစ်မြောက်အထိ | ကင်းလွတ်ခွင့် |
| - (၄)နှစ်မှ (၁၃)နှစ်မြောက်ထိ | ၁၀% |
| - (၁၄)နှစ်မှ (၂၃)နှစ်မြောက်ထိ | ၂၀% |
| - (၂၄)နှစ်မှ နှစ်(၃၀)ထိ | ၃၀% |

- ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ် ချုပ်ဆိုပြီး (၂၈) ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှလုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည့်အထိ ဖြစ်ပါသည်။ ကုမ္ပဏီအနေဖြင့် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်ပေါင်း (၃၀)အတွင်းလုပ်ငန်း စတင်ရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ (၂၄)လအတွင်း လုပ်ငန်းပြီးစီးအောင် မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း၊ ယင်းဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူမည်ဖြစ် ပါသည်။
- လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့် ကုန်အလေးချိန် စုစုပေါင်း တန် (၄၀) ခံနိုင်ရည်ရှိရန်နှင့် တံတားများဆောက်လုပ်ရာတွင် ယာဉ်နှင့်ကုန် စုစုပေါင်း တန်(၆၀)ခံနိုင်ရည် ရှိရန် တည်ဆောက်ရမည် ဖြစ်ပါသည်။
- လုပ်ငန်းစတင် ဆောင်ရွက်မည့်နေ့မှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို လက်ခံရရှိသည့် နေ့ဖြစ်ပါသည်။
- နိုင်ငံတော်သို့ ပေးသွင်းရမည့် လမ်းအသုံးပြုခ ကောက်ခံရငွေများကို ပေးသွင်းရန် သတ်မှတ်ရက်ထက် နောက်ကျပေးသွင်းပါက ပေးသွင်းရမည့်ရက်ထက် (၁၀)ရက်ကျော်တိုင်း ပေးသွင်းရမည့် ငွေပမာဏ၏ (၅)ရာခိုင်နှုန်းစီကို နောက်ကျကြေးအဖြစ် အပိုဆောင်း၍ ပေးသွင်းရမည် ဖြစ်ပါသည်။

— ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့်ခံ လုပ်ကိုင်ခွင့် ပြုနိုင်ပါသည်။

— လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့်ကာလ ပြီးဆုံးပါက အဆိုပါ လမ်း၊ တံတားဂိတ်များနှင့် အဆောက်အဦများကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ ကောင်းမွန်သော အနေအထားအတိုင်း လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၅။ ယင်းကုမ္ပဏီမှ ဝန်ဆောင်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်မည့် လမ်းတံတား အသုံးပြုခ ကောက်ခံနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

(တစ်စီးနှုန်း)

| | | |
|---|---|---|
| – | ယာဉ်ငယ် (၁) တန်အောက် | ကျပ် ၁၀၀ |
| – | ယာဉ်လတ် (၁ တန်၊ ၂ တန်၊ ၃ တန်နှင့် ၄ တန်) | ကျပ် ၄၀၀ |
| – | ခရီးသည်တင်ကားကြီး (ကုန်မပါ) | ကျပ် ၆၀၀ |
| – | ကုန်တင်ယာဉ်အလတ် (၁၀ တန်အထိ) | ကျပ် ၁၂၀၀ |
| – | ကုန်တင်ယာဉ်အကြီး (၂၀ တန်အထိ) | ကျပ် ၂၅၀၀ |

တန်(၂၀)နှင့် အထက်ယာဉ်များသည် နောက်ထပ်ပိုသော(၁)တန်တိုင်းအတွက် ကျပ် (၃၀၀)စီ ထပ်မံပေးဆောင် ရမည်ဖြစ်ပါသည်။ နှုန်းများကို မည်သို့ပင် သတ်မှတ်စေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်သည့် နှုန်းအတိုင်း ကောက်ခံရန်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၁၆)နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၇။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၂၅၄.၅၅ သန်း |
| (ခ) | လမ်းတံတားဖြတ်သန်းခရငွေ | ကျပ် ၃၁၀.၄၁ သန်း |

၈။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၆၅)ဦး၊ ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၉။ ယင်းလုပ်ငန်းနှင့် စပ်လျဉ်း၍ ပိုင်ဆိုင်မှု၊ ပတ်ဝန်းကျင်ထိန်းသိမ်းမှုနှင့် ချေးငွေရယူမှု တို့အတွက် ဝန်ခံကတိများပြုထား ပါသည်။

၁၀။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။

ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၁။ ဆုံးဖြတ်ရန်အချက်။

(က) ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ-မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ-မတူ။

၁၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။

အစိုးရအဖွဲ့၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ပြည်ထောင်စု မြန်မာနိုင်ငံတော် အစိုးရအဖွဲ့။

# ပြည်ထောင်စု မြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

စာအမှတ်၊ ရကာ-၁/ မ- ၁၁၃၆/ ၂၀၀၀ (၁၆၉-င)။
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ မေလ ၁၁ ရက်။

ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ တင်ပြသည့်
အမှာစာ

အကြောင်းအရာ။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် မှ ကျိုင်းတုံ-တာချီလိတ် ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်း ကိစ္စ။

၁။ မြန်မာကုမ္ပဏီဖြစ်သော ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် (Hong Pang Construction Co., Ltd.) မှ မှ ကျိုင်းတုံ-တာချီလိတ် ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ရန် အဆိုပြု တင်ပြလာပါသည်။ ယင်း အဆိုပြုချက်ကို (၁၆-၃-၂၀၀၀) နေ့နှင့် (၂၄-၄-၂၀၀၀)နေ့တွင် ကျင်းပ ပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၀၀) ကြိမ်နှင့် (၁၃/၂၀၀၀)ကြိမ်မြောက် အစည်းအဝေးများသို့ တင်ပြခဲ့ပါသည်။ အစည်းအဝေးမှ လုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူပြီး၊ ကုန်သွယ်မှု မူဝါဒ ကောင်စီသို့ ဆက်လက် တင်ပြရန် ဆုံးဖြတ်ချက်အရ တင်ပြခြင်းဖြစ်ပါသည်။ အဆိုပြုချက်နှင့်အတူ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်သဘောတူစာချုပ်(မူကြမ်း)၊ ရှေ့နေချုပ်ရုံးသဘောထားမှတ်ချက်တို့ကို နောက်ဆက်တွဲ(၁) အဖြစ် တင်ပြထားပါသည်။

၂။ ယင်းလုပ်ငန်း၏ မတည်ငွေရင်း ပမာဏမှာ အမေရိကန်ဒေါ်လာ (၃၀.၀၀)သန်း အပါအဝင်စုစုပေါင်း ကျပ် (၃၁၈၀.၀၀)သန်း ဖြစ်ပါသည်။ ယင်းတွင်ငွေသား ကျပ် (၃၀၂၁.၈၈)သန်း {အမေရိကန်ဒေါ်လာ (၃.၆၅)သန်းအပါအဝင်}၊ ကုန်ကြမ်းတန်ဖိုး ကျပ် (၁၃၀.၅၇)သန်း {အမေရိကန်ဒေါ်လာ (၂၁.၇၆)သန်း}၊ စက်ပစ္စည်းကိရိယာ တန်ဖိုး ကျပ် (၂၇.၅၅)သန်း {အမေရိကန်ဒေါ်လာ (၄.၅၉)သန်း} ထည့်ဝင် ရင်းနှီးမည် ဖြစ်ပါသည်။ စက်ပစ္စည်းကိရိယာ၊ ကုန်ကြမ်းနှင့် ငွေသားများကို မလေးရှားနိုင်ငံ Euro Tech Engineering and Machinery Sdn Bhd မှရွှေ့ဆိုင်းငွေပေးချေခြင်း စနစ်ဖြင့် ရယူမည်ဖြစ်ပြီး၊ တစ်နှစ်လျှင် အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၁၆)နှစ်အတွင်း ပြန်လည်ပေးဆပ်ရမည် ဖြစ်ပါသည်။

၃။ ယင်းကုမ္ပဏီသည် ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင် မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ-တာချီလိတ် ပြည်ထောင်စု လမ်းမကြီး (ကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်း) မိုင်တိုင်အမှတ် ၃၉၇/၄ မှ ၄၉၉/၆ အထိ (၁၀၂)မိုင် (၂)ဖာလုံ ရှည်သော လမ်းအပိုင်းကို တည်ဆောက်၊ ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခများ ကောက်ခံခြင်း လုပ်ငန်းကို ဆောင်ရွက်မည် ဖြစ်ပါသည်။

၄။ ဟုန်ပန်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်နှင့် ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းတို့ ချုပ်ဆိုမည့် ပဋိညာဉ်စာချုပ် (မူကြမ်း)ပါ အဓိကအချက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

- လုပ်ငန်းသက်တမ်းမှာ ကနဦး နှစ် (၃၀)ဖြစ်ပြီး နောက်ထပ် (၅)နှစ် (၂)ကြိမ် တိုးမြှင့်ခွင့် ရှိပါသည်။
- လမ်းနယ်နမိတ်မှာ ကျေးရွာများအတွင်း ဖြတ်သန်းသည့်နေရာများနှင့် မြို့တွင်းလမ်းများအပ အကျယ် ပေ (၂၀၀) နှင့် အရှည် (၁၀၂)မိုင် (၂)ဖါလုံ ရှိပါသည်။
- လမ်းတံတားအသုံးပြုခ ကောက်ခံမည့်ဂိတ်များမှာ ကျိုင်းတုံ၊ မိုင်းဖြတ်၊ တာလေ၊ တာချီလိတ် တို့ဖြစ်ပါသည်။
- နိုင်ငံတော်သို့ ပေးသွင်းရမည့် လမ်းတံတားခနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်–

| | စုစုပေါင်း လမ်းတံတား အသုံးပြုခ ကောက်ခံရငွေ၏ |
|---|---|
| - ပထမနှစ်မှ (၃)နှစ်မြောက်အထိ | ကင်းလွတ်ခွင့် |
| - (၄)နှစ်မှ (၁၃)နှစ်မြောက်ထိ | ၁၀% |
| - (၁၄)နှစ်မှ (၂၃)နှစ်မြောက်ထိ | ၂၀% |
| - (၂၄)နှစ်မှ နှစ်(၃၀)ထိ | ၃၀% |

- ဘဏ်အာမခံကြေးငွေအဖြစ် စာချုပ် ချုပ်ဆိုပြီး ရက်ပေါင်း (၂၈) အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ (၁)ရာခိုင်နှုန်းနှင့် ညီမျှသော ငွေကို ထားရှိပေးရမည်။ ယင်းသက်တမ်းသည် စတင်ထုတ်ပေးသည့် နေ့မှလုပ်ငန်း ပြီးဆုံးအောင် ဆောင်ရွက်သည်အထိ ဖြစ်ပါသည်။ ကုမ္ပဏီ အနေဖြင့် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး ရက်ပေါင်း (၃၀)အတွင်းလုပ်ငန်း စတင် ရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ (၂၄)လအတွင်း လုပ်ငန်းပြီးစီးအောင် မဆောင်ရွက်နိုင် လျှင်သော်လည်းကောင်း၊ ယင်းဘဏ်အာမခံငွေကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူမည်ဖြစ် ပါသည်။
- လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့် ကုန်အလေးချိန် စုစုပေါင်း တန် (၄၀) ခံနိုင်ရည်ရှိရန်နှင့် တံတားများဆောက်လုပ်ရာတွင် ယာဉ်နှင့်ကုန် စုစုပေါင်း တန်(၆၀)ခံနိုင်ရည် ရှိရန် တည်ဆောက်ရမည် ဖြစ်ပါသည်။
- လုပ်ငန်းစတင် ဆောင်ရွက်မည့်နေ့မှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို လက်ခံရရှိသည့် နေ့ဖြစ်ပါသည်။
- နိုင်ငံတော်သို့ ပေးသွင်းရမည့် လမ်းအသုံးပြုခ ကောက်ခံရငွေများကို ပေးသွင်းရန် သတ်မှတ် ရက်ထက် နောက်ကျပေးသွင်းပါက ပေးသွင်းရမည့်ရက်ထက် (၁၀)ရက်ကျော်တိုင်း ပေးသွင်း ရမည့် ငွေပမာဏ၏ (၅)ရာခိုင်နှုန်းစီကို နောက်ကျကြေးအဖြစ် အပိုဆောင်း၍ ပေးသွင်းရမည် ဖြစ်ပါသည်။

- ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီ လီမိတက် သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံ လုပ်ကိုင်ခွင့်မပြုရဘဲ လုပ်ငန်း တစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့်ခံ လုပ်ကိုင်ခွင့် ပြုနိုင်ပါသည်။
- လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသည့်ကာလ ပြီးဆုံးပါက အဆိုပါ လမ်း၊ တံတားဂိတ်များနှင့် အဆောက်အဦများကို ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ အဖိုးစားနားတစ်စုံတစ်ရာမရှိဘဲ ကောင်းမွန်သော အနေအထားအတိုင်း လွှဲပြောင်းပေးရမည် ဖြစ်ပါသည်။

၅။ ယင်းကုမ္ပဏီမှ ဝန်ဆောင်မှုလုပ်ငန်းအဖြစ် ဆောင်ရွက်မည့် လမ်းတံတား အသုံးပြုခ ကောက်ခံနှုန်းများမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

(တစ်စီးနှုန်း)

| | | |
|---|---|---|
| - | ယာဉ်ငယ် (၁) တန်အောက် | ကျပ် ၁၀၀ |
| - | ယာဉ်လတ် (၁ တန်၊ ၂ တန်၊ ၃ တန်နှင့် ၄ တန်) | ကျပ် ၄၀၀ |
| - | ခရီးသည်တင်ကားကြီး (ကုန်မပါ) | ကျပ် ၆၀၀ |
| - | ကုန်တင်ယာဉ်အလတ် (၁၀ တန်အထိ) | ကျပ် ၁၂၀၀ |
| - | ကုန်တင်ယာဉ်အကြီး (၂၀ တန်အထိ) | ကျပ် ၂၅၀၀ |

တန်(၂၀)နှင့် အထက်ယာဉ်များသည် နောက်ထပ်ပိုသော(၁)တန်တိုင်းအတွက် ကျပ် (၃၀၀)စီ ထပ်မံပေးဆောင် ရမည်ဖြစ်ပါသည်။ နှုန်းများကို မည်သို့ပင် သတ်မှတ်စေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်သည့် နှုန်းအတိုင်း ကောက်ခံရန်ဖြစ်ပါသည်။

၆။ ယင်းလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ တစ်နှစ်ပျမ်းမျှ ရရှိမည့် ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(ကျပ်သန်း)

| | | ပြည်တွင်း | နိုင်ငံခြား | စုစုပေါင်း |
|---|---|---|---|---|
| (က) | ဝင်ငွေ | ၁၂၇၇.၉၆ | - | ၁၂၇၇.၉၆ |
| (ခ) | အသုံးစရိတ် | ၆၈၄.၆၈ | ၂.၄၀ | ၆၈၇.၀၈ |
| (ဂ) | အသားတင်အမြတ် | ၅၉၃.၂၈ | (-) ၂.၄၀ | ၅၉၀.၈၈ |

၇။ ယင်းလုပ်ငန်း၏ အရင်းကြေကာလမှာ (၁၆)နှစ်ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၉)ရာခိုင်နှုန်း ဖြစ်ပါသည်။

၈။ ယင်းလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ဝင်ငွေခွန် | ကျပ် ၂၅၄.၅၅ သန်း |
| (ခ) | လမ်းတံတားဖြတ်သန်းခရငွေ | ကျပ် ၃၁၈.၄၁ သန်း |

၉။ ယင်းလုပ်ငန်းကို ဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း (၂၆၅)ဦး၊ ပြည်ပမှ ဝန်ထမ်း (၅)ဦး ခန့်ထား ဆောင်ရွက်မည် ဖြစ်ပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး၊ နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လမ်းတံတား တည်ဆောက်ပြုပြင် ဖောက်လုပ်ခြင်းနှင့် ပတ်သက်၍ နိုင်ငံတော်မှ သတ်မှတ် ပြဋ္ဌာန်းမည့် စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင် ညစ်ညမ်းမှု နှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွားစေရန် အတွက် လိုအပ်သော အစီအမံများ၊ ကြိုတင် ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ နိုင်ငံခြားချေးငွေကို Hong Pang Group မှ လုပ်ကိုင်ဆောင်ရွက်နေသော စိုက်ပျိုးရေး၊ မွေးမြူရေး၊ ကုန်ထုတ်လုပ်မှုနှင့် အခြားဝန်ဆောင်မှုလုပ်ငန်းများမှ ရရှိသော နိုင်ငံခြားငွေဖြင့် ပြန်လည်ပေးဆပ်မည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိ ပြုထားပါသည်။

၁၁။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် လျှောက်ထားလာပါသည်။ ဥပဒေပုဒ်မ ၁၂ အရ စီးပွားရေးလုပ်ငန်း စတင်သောနှစ်အပါအဝင် တစ်ဆက်တည်း (၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ပေးရမည် ဖြစ်ပါသည်။ ဥပဒေပုဒ်မ ၁၃ အရ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များအနက် လုပ်ငန်းနှင့် သက်ဆိုင်သည့် အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် ကော်မရှင်မှ ညှိနှိုင်း ဆုံးဖြတ်ခဲ့ ပါသည်။

၁၂။ ဆုံးဖြတ်ရန်အချက်။

(က) ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှကျိုင်းတုံ–တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြု တင်ပြခြင်းကို ခွင့်ပြုရန် သဘောတူ–မတူ။

(ခ) လုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် သဘောတူပါက မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ နှင့် ၁၃ ပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် သဘောတူ–မတူ။

၁၃။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ထောက်ခံချက်။
ကုန်သွယ်မှု မူဝါဒ ကောင်စီ၏ ဆုံးဖြတ်ချက်ကို နာခံအပ်ပါသည်။

( ဦးသောင်း )
ဥက္ကဋ္ဌ
ဝန်ကြီး၊ သိပ္ပံ နှင့် နည်းပညာ ဝန်ကြီးဌာန။

ကုန်သွယ်မှု မူဝါဒ ကောင်စီ၊

ကော်မရှင်၏ ၁၃/၂၀၀၀ အစည်းအဝေး

အကြောင်းအရာ။ ။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင် ဖေါက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင် ဖေါက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ တစ်ဆင့်တင်ပြလာသည့်အဆိုပြုချက်ကို (၁၆-၃-၂၀၀၀) နေ့တွင်ကျင်းပပြုလုပ်သည့်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့တင်ပြခဲ့ရာ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

- အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူကြောင်း ၊
- ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ကောက်ခံမည့်လမ်းတံတားအခ အသုံးပြုခနှုန်းများကိုပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြလာပါက ကုန်သွယ်မှုမူဝါဒ ကောင်စီသို့ ဆက်လက်တင်ပြရန်။

၂။ အထက်ပါအစည်းအဝေး ဆုံးဖြတ်ချက်အရ ဟုန်ပန်း ကုမ္ပဏီမှ လမ်းအသုံးပြုခ ကောက်ခံမည့်နှုန်းများသည် လားရှိုး-မူဆယ် (၁၀၂ မိုင် ၃ ဖာလုံ) အတွက် အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက်အား ကောက်ခံခွင့်ပြုထားသော နှုန်းများ ထက်များနေသည်မှာ မှန်သော်လည်း ယခု ဖေါက်လုပ်မည့်ကျိုင်းတုံ-တာချီလိတ်လမ်း ကိုလမ်းအကျယ်ပေ (၃၀) အထိလည်းကောင်း ၊ တံတားများကို (၃၅) ပေအထိလည်းကောင်း ၊ အသီးသီး တည်ဆောက်နေကြောင်း ၊ သို့အတွက် ရင်းနှီးမြှုပ်နှံကုန်ကျမှုများခြင်း ၊ ထိုလမ်းကိုအသုံးပြုသည့်ယာဉ်များ အဘို့စရိတ်အနည်းငယ်ကြီးမှုရှိနိုင်သော်လည်း ပြည်မအတွင်း ကုန်စည်စီးဆင်းမှုစရိတ်ကိုအကြီးအကျယ်မထိခိုက်နိုင်ခြင်း စသောအကြောင်းများကိုစိစစ်တွေ့ရှိရပါကြောင်း ။ သို့ပါ၍ ကုမ္ပဏီမှအဆိုပြုတင်ပြသောလမ်း တံတား အသုံးပြုခနှုန်းများ အတိုင်း လက်ခံခွင့်ပြုသင့်သည်ဟုယူဆပါကြောင်း ဆောက်လုပ်ရေး ဝန်ကြီးဌာနမှပြန်လည်တင်ပြလာပါသည်။

၃။ လားရှိုး-သိန္နီ-ကွမ်းလုံ-ချင်းရွှေဟော်လမ်းပိုင်း နှင့်ကျိုင်းတုံ-မိုင်းဖြတ်-တာချီလိတ်လမ်းအပိုင်းတို့၌လမ်းသာခြေအနေများ နှင့်လမ်း တံတား အသုံးပြုခ ကောက်ခံမည့်နှုန်းထားများကို အောက်ပါအတိုင်း နှိုင်းယှဉ်တင်ပြလာပါသည်။

| စဉ် | | အကြောင်းအရာ | ဘိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းအပိုင်း (အေး ရှားဝေါလ်ကုမ္ပဏီ) | ကျိုင်းတုံ – မိုင်းဖြတ် တာချီလိတ်လမ်း အပိုင်း ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီ |
|---|---|---|---|---|
| ၁ | | လမ်း အကျယ်အဝန်း နှင့်မိုင် ပေါင်း | | |
| | ၁ | ဖောက်လုပ်မည့်လမ်း မိုင် ပေါင်း | ၆၆ မိုင် | ၁၀၂ မိုင် |
| | ၂ | ခင်း မည့်ကျောက်ရာလမ်း အကျယ် | ၁၂ ပေ | ၂၄ ပေ |
| | ၃ | လမ်း ပုခုံး အကျယ် | ၆ ပေ | ၆ ပေ |
| | ၄ | စုစုပေါင်း လမ်း အကျယ် | ၁၈ ပေ | ၃၀ ပေ |
| ၂ | | တံတား များ စာရင်း | | |
| | ၁ | တံတား ကြီး ( ပေ ၃၀၀ အထက် ) | မရှိ | ၃ စင်း |
| | ၂ | တံတား လတ် ( ပေ ၁၀၀ အထက် ) | ၂ စင်း | ၈ စင်း |
| | ၃ | တံတား ငယ် ( ပေ ၁၀၀ အောက် ) | ၄၅ စင်း | ၄၂ စင်း |
| | ၄ | လမ်း ဖြတ် ရေပြွန်ထည့်မည့် နေရာ ပေါင်း | ၁၁၅ ခု | ၆၀၀ ခု |
| | ၅ | တံတား နှင့် ရေပြွန်အကျယ် | ၁၈ ပေ | ၃၆ ပေ |
| ၃ | | လမ်း ၊ တံတား အသုံး ပြုခနှုန်း များ | | |
| | ၁ | ကောက်ခံမည့်ဂိတ်အရေအတွက် | ၃ ခု | ၄ ခု |
| | ၂ | ယခုလက်ရှိဖြတ်သန်း နေသည့်ယာဉ်အရေအတွက် | တစ်နေ့လျှင်အစီး ၁၀၀ မှ ၂၀၀ ခန့် | တစ်နေ့လျှင် အစီး ၁၀၀ခန့် |
| | ၃ | ကောက်ခံမည့်နှုန်းထား (တစ်စီး) | | |
| | | -ယာဉ်ငယ် ( ၁တန် အောက် ) | ကျပ် ၁၀ဝိ | ကျပ် ၁၀ဝိ |
| | | -ယာဉ်လတ် ( ၁တန်နှင့် ၂ ၃/၄ တန် ) | ကျပ် ၃၀ဝိ | ကျပ် ၄၀ဝိ |
| | | -ခရီး သည်တင်ယာဉ် ( အကြီး ) | ကျပ် ၅၀ဝိ | ကျပ် ၆၀ဝိ (ကုန်မပါ) |
| | | -ထရပ်ကားများ (အလတ်) (၁၀တန်ထိ) | ကျပ် ၁၀၀ဝိ | ကျပ် ၁၂၀ဝိ |
| | | -ထရပ်ကား များ (၂၀တန်ထိ) | ကျပ် ၂၀၀ဝိ | ကျပ် ၂၅၀ဝိ |
| | | | ၂၀တန်နှင့်အထက် ယာဉ်များနောက် ထပ်၁တန် ပို တိုင်းကျပ် (၂၀၀) ပေးဆောင်ရမည်။ | ၂၀တန်နှင့်အထက်ယာဉ်များ နောက်ထပ် ၁ တန်ပိုတိုင်း ကျပ် (၃၀၀) ပေးဆောင်ရမည် |

၄။ သို့ဖြစ်ပါ၍ ဆောက်လုပ်ရေး ဝန်ကြီး ဌာနမှ လမ်း တံတား အသုံး ပြုခနှုန်း များ ကောက်ခံခြင်း နှင့် စပ်လျဉ်း၍ ပြန်လည်တင်ပြလာခြင်း အပေါ် ကော်မရှင်မှ လမ်း ညွှန် မှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။






ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀(ရှမ်း)(စီ ၁၂၆၈)
ရက် စွဲ ၊ ၂၀၀၀ ပြည့်နှစ် ဧပြီလ ၄ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်းကို ပြုပြင်ဖောက်လုပ်လုပ်ငန်းလုပ်ကိုင်ခွင့်အဆိုပြုချက်ထပ်မံတင်ပြခြင်း**

ရည် ညွှန်း ချက်။
(၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၏၂၀၀၀ပြည့်နှစ်ဖေဖော်ဝါရီလ (၇)ရက်နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀ (ရှမ်း)(စီ ၄၁၀)
(၂) ၂၀၀၀ပြည့်နှစ် မတ်လ (၁၆)ရက်နေ့တွင်ကျင်းပခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး
(၃) ရှမ်း(မြောက်)အထူးဒေသ(၂)ဟုန်ပန်းကုမ္ပဏီလီမိတက်၏ ၂၀၀၀ပြည့်နှစ် မတ်လ(၂၈)ရက်နေ့စွဲပါစာအမှတ်၊ HP R003, ၂၈၀၃/၀၀

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းလုပ်ပိုင်ခွင့်ရရှိရေးအတွက် ဟုန်ပန်းကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာကို ရည်ညွှန်း(၁)ပါစာဖြင့်ပေးပို့ခဲ့ရာ ရည်ညွှန်း(၂)ပါအစည်းအဝေးမှ လမ်း တံတားအသုံးပြုခကောက်ခံမည့်နှုန်းများ၊ များနေခြင်းအတွက် ပြန်လည်ညှိနှိုင်းတင်ပြရန် ဆုံးဖြတ်ခဲ့ပါသည် ။

၂။ အသုံးပြုခကောက်ခံမည့်နှုန်းများ၊ များနေခြင်းအတွက် ဟုန်ပန်းကုမ္ပဏီလီမိတက်နှင့် ညှိနှိုင်းခဲ့သော်လည်း အဆိုပြုလွှာပါနှုန်းများအတိုင်းပင်ခွင့်ပြုရေးအတွက် ရည်ညွှန်း(၃)ဖြင့် ပြန်လည်တင်ပြလာခဲ့ပါသည်။ ထိုနှုန်းများမှာ လားရှိုး-မူဆယ်(၁၀၂မိုင်၃ဖာလုံ)အတွက် အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်အား ကောက်ခံခွင့်ပြုထားသော နှုန်းများထက်များနေသည်မှာ မှန်သော်လည်းယခုဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်မည့် ကျိုင်းတုံ-တာချီလိတ်လမ်းကို ဟုန်ပန်းကုမ္ပဏီမှ ပြုပြင်ဖောက်လုပ်လျက်ရှိရာ၌ လမ်းအကျယ်ကိုပေ(၃၀)အထိလည်းကောင်း၊ တံတားများကို (၃၅)ပေအထိလည်းကောင်း၊ အသီးသီးတည်ဆောက်နေသဖြင့် ရင်းနှီးမြှုပ်နှံကုန်ကျမှုများခြင်း၊ ထိုလမ်းကိုအသုံးပြုသည့်ယာဉ်များအဘို့ စရိတ်အနည်းငယ်ကြီးမှု ရှိနိုင်သော်လည်း ပြည်မအတွင်းကုန်စည်စီးဆင်းမှုစရိတ်ကုန်အကြီးအကျယ်မထိခိုက်နိုင်ခြင်းစသောအကြောင်းများကိုစီစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရှမ်း(မြောက်)အထူးဒေသ(၂) ဟုန်ပန်းကုမ္ပဏီလီမိတက်၏ အဆိုပြုတင်ပြသော လမ်း တံတားအသုံးပြုခနှုန်းများကို အထက်ဖော်ပြပါအကြောင်းများကို ထောက်ချင့်၍ လက်ခံခွင့်ပြုသင့်သည် ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည် ။

ဝန်ကြီး (ကျော်လှ)

မိတ္တူကို ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ ကာကွယ်ရေးဝန်ကြီးဌာန ။
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

-/အိ**

## ရှမ်း/မြောက်အထူးဒေသ (၂) ဟုန်ပန်း ကုမ္ပဏီလီမိတက်
## ရှမ်းပြည်နယ်အရှေ့ပိုင်း၊ တာချီလိတ်မြို့

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ HP , ROO 5, ၂၈၀၃/၀၀
ရက်စွဲ၊ (၂၈) ရက်၊ မတ်လ၊ ၂၀၀၀ ခုနှစ်

အကြောင်းအရာ။ ။ ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်း ပြုပြင်ဖောက်လုပ်ခြင်းအတွက် လမ်းတံတာ အသုံးပြုခကောက်ခံနိုင်မည့် နှုန်းထားကို သတ်မှတ်ခွင့် ပြုပေးနိုင်ရန် လျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ " ဝ " အထူးဒေသ (၂) ဟုန်ပန်းကုမ္ပဏီမှ ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်းကို တာဝန်ယူဖောက်လုပ်လျှက်ရှိပါသည်။ ကျွန်တော်တို့ ကုမ္ပဏီသည် ဒေသတွင်း လမ်းပန်းဆက်သွယ်ရေးကောင်းမွန်ပြီး ဖွံ့ဖြိုးတိုးတက်လာနိုင်ရန် အတွက်လည်းကောင်း နိုင်ငံတော်၏ အခြေခံတည်ဆောက်မှုလုပ်ငန်းတွင် တက်ကြွစွာ ပါဝင်ဆောင်ရွက် လို၍လည်းကောင်း၊ အကျိုးအမြတ်ကို အဓိက ပဓာနမထားဘဲ စိတ်ရင်းစေတနာကောင်းဖြင့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နေခြင်းဖြစ်ပါသည်။

၂။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ဒေသဖွံ့ဖြိုးရေးအတွက်သာမကဘဲ အိမ်နီးချင်းနိုင်ငံများနှင့် ရင်ဘောင် တန်းနိုင်ရေးနှင့် နိုင်ငံတော်၏ ကာကွယ်ရေးအတွက် လွန်စွာမှအရေးကြီးသော လမ်းဖြစ်ပါသည်။ ကျွန်တော်တို့ ကုမ္ပဏီမှ ကျိုင်းတုံ-တာချီလိက်လမ်းကို အဖြစ်သဘောမျိုးပြုပြင်ဖောက်လုပ်နေခြင်း မဟုတ်ဘဲ ရည်ရွယ်ချက်ကြီးမားစွာဖြင့် စေတနာ ထက်သန်စွာ အရှုံးခံဖောက်လုပ်နေခြင်းဖြစ်ပါသည်။

၃။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ရာသီဥတုဆိုးရွားမှုနှင့် တောင်ပြိုကျမှုတို့ကြောင့် နှစ်ပေါင်းများစွာ သွားလာရေးပြတ်တောက်မှုအခက်အခဲများ ဖြစ်နေခဲ့ပါသည်။ (၁၀၂) မိုင် (၂) ဖာလုံရှိသော ခရီးကို ရက်ပေါင်းများစွာ သွားလာရသည့်အထိ ဆိုးရွားခဲ့ပါသည်။ သွားလာရေးခက်ခဲမှုကြောင့် ကုန်စျေးနှုန်းများ အဆမတန်ကြီးမြင့်မှုရှိခဲ့ပါသည်။

ကျွန်တော်များ ကုမ္ပဏီမှ လမ်းကို ဖောက်လုပ်ပြီးစီးပါက(၁၀၂) မိုင် (၂) ဖာလုံ ခရီးကို (၃) နာရီခန့်ဖြင့် ခရီးရောက်ရှိနိုင်မည်ဖြစ်ပါသည်။ သွားလာရေးလွယ်ကူချောမွေ့မှုကြောင့် ယာဉ်များ သွားလာရာတွင် လွယ်ကူပြီး ယာဉ်ပျက်စီးခြင်းများ သက်သာ၍ သယ်ယူစရိတ်များကျဆင်းပြီး၊ ကုန်စျေးနှုန်းကြီးမြင့်မှုကို လျော့ကျစေနိုင်ပါသည်။

၄။ လမ်းအကျယ်မှာ ပေ(၃၀) ဖြစ်ပြီး၊ တန် (၄၀) အထက်ခံနိုင်ရည်ရှိရန် တည်ဆောက်ထားပါသည်။ တံတားများကိုလည်း (၃၅) ပေအကျယ်ရှိ တရုတ်ကျောက်စီခုံးတံတားအဖြစ် တည်ဆောက်ထားပြီး၊ တန် (၆၀) အထက်ခံနိုင်ရည်ရှိပါသည်။

လမ်း[illegible]ဆောက်မှုပုံစံမှာ လက်ရှိ မူဆယ်-လားရှိုးလမ်းထက် များစွာအဆင့်မြင့်ပြီး၊ ရင်းနှီးမြုပ်နှံ မှု[illegible]လည်း များစွာပိုပါသည်။ သို့သော်ယာဉ်ဖြတ်သန်းမှုစီးရေမှာ မူဆယ်-လားရှိုးလမ်းထက် အဆပေါင်းများစွာ လျော့နည်းလျက်ရှိကြောင်းတွေ့ရှိရပါသည်။

၅။ လမ်းဖြတ်သန်းခ ကောက်ခံသည့် နှုန်းထားများကို တပြေးညီ၊ တသမတ်တည်း ပုံစံမျိုးမဟုတ်ဘဲ၊ လုပ်ငန်း အခြေအနေအရပ်ရပ်ကို လေ့လာသုံးသပ်ပြီး စျေးနှုန်းသတ်မှတ်ပေးပါက ပို၍ ဆီလျော်မည်ဟု ယူဆ ပါသည်။

၆။ ကျိုင်းတုံ-တာချီလိတ်လမ်း၏ လက်ရှိယာဉ်ဖြတ်သန်းမှုစီးရေမှာ (၁၀၀) ကျော်ခန့်သာရှိပါသည်။ တွက်ချက်မှုအရ ကျွန်တော်များကုမ္ပဏီ၏ အရင်းကြေကာလမှာ (၂၀)နှစ်ခန့်ကြာမြင့်မည်ဖြစ်ပါသည်။ ထို့ကြောင့် ကျိုင်းတုံ-တာချီလိတ် လမ်း၏ လမ်းတံတားဖြတ်သန်းမှုကောက်ခံသည့် နှုန်းထားကို ပြည်သူ လူထုအတွက် ဝန်ထုပ်ဝန်ပိုးမဖြစ်စေရန်နှင့် ကုမ္ပဏီ၏ ရင်းနှီးမြုပ်နှံမှု များစွာ ဆုံးရှုံးမှုမဖြစ်စေရန် တွက်ချက်၍ အောက်ပါနှုန်းထားအတိုင်း ကောက်ခံခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

<u>လမ်းတံတားအသုံးပြုခနှုန်းများ</u>

| | | | |
|---|---|---|---|
| (၁) | ယာဉ်ငယ် (၁ တန်အောက်) | - ၁ စီးလျှင် ကျပ် | (၁၀၀) |
| (၂) | ယာဉ်လတ် (၁ တန်နှင့် ၂¾တန်) | - ၁ စီးလျှင် ကျပ် | (၄၀၀) |
| (၃) | ခရီးသည်တင်ကား (ကုန်မပါ) | - ၁ စီးလျှင် ကျပ် | (၆၀၀) |
| (၄) | ထရပ်ကားများ (အလတ်) (၁၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၁၂၀၀) |
| (၅) | ထရပ်ကားများ (၂၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၂၅၀၀) |

တန် (၂၀) နှင့် အထက်ယာဉ်များ နောက်ထပ် (၁) တန်ပိုတိုင်း ကျပ် (၃၀၀) ပေးဆောင်ရန် ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့် -

ခင်မောင်မြင့်
( ဒါရိုက်တာ )
ဟုန်ပန်းကုမ္ပဏီလီမိတက်၊
'ဝ'အထူးဒေသ (၂)

မိတ္တူကို-
(၁) ဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၂) ဒုတိယဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၃) ဦးဆောင်ညွှန်ကြားရေးမှူး (ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း)

## သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းနှင့် ကျိုင်းတုံ - မိုင်းဖြတ် - တာချီလိတ်လမ်းပိုင်း ဖောက်လုပ်မည့် လမ်းတံတားနှင့် အသုံးပြုခ ကောက်ခံမည့်နှုန်းထားများ နှိုင်းယှဉ်ချက်

### သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းဖောက်လုပ်မည့် လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၆၆ မိုင် | ၁၂ ပေ | ၆ ပေ | ၁၈ ပေ |

### သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| မရှိ | ၂ စင်း | ၄၅ စင်း | ၁၁၅ ခု | ၁၈ ပေ |

### သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် - ၃ ခု

(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် - ၁ နေ့လျှင် အစီး ၁၀၀ မှ ၂၀၀ခန့်

(၃) ကောက်ခံမည့်နှုန်းထား

(က) ယာဉ်ငယ် (၁တန်အောက်) - ၁စီးလျှင် ကျပ်(၁၀၀)

(ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) - ၁စီးလျှင် ကျပ်(၃၀၀)

(ဂ) ခရီးသည်တင်ယာဉ်(အကြီး) - ၁စီးလျှင် ကျပ်(၅၀၀)

(ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) - ၁စီးလျှင်ကျပ်(၁၀၀၀)

(င) ထရပ်ကားများ(၂၀တန်ထိ) - ၁စီးလျှင်ကျပ်(၂၀၀၀)

၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၂၀၀)ပေးဆောင်ရမည်။

### ကျိုင်းတုံ-မိုင်းဖြတ်-တာချီလိတ်လမ်းပိုင်းဖောက်လုပ်မည့်လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၁၀၂ မိုင် | ၂၄ ပေ | ၆ ပေ | ၃၀ ပေ |

### ကျိုင်းတုံ-မိုင်းဖြတ်-တာချီလိတ်လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| ၃ စင်း | ၈ စင်း | ၄၂ စင်း | ၆၀၀ ခု | ၃၆ ပေ |

### ကျိုင်းတုံ-မိုင်းဖြတ်-တာချီလိတ်လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ(အဆိုပြုဈေးနှုန်း)

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် - ၄ ခု

(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် - တနေ့လျှင် အစီး ၁၀၀ ခန့်

(၃) ကောက်ခံမည့်နှုန်းထား

(က) ယာဉ်ငယ် (၁တန်အောက်) - ၁စီးလျှင် ကျပ်(၁၀၀)

(ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) - ၁စီးလျှင် ကျပ်(၄၀၀)

(ဂ) ခရီးသည်တင်(အကြီး) (ကုန်မပါ) - ၁စီးလျှင် ကျပ်(၆၀၀)

(ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) - ၁စီးလျှင်ကျပ်(၁၂၀၀)

(င) ထရပ်ကားများ(၂၀တန်ထိ) - ၁စီးလျှင်ကျပ်(၂၅၀၀)

၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၃၀၀)ပေးဆောင်ရမည်။

၁၄။ <u>ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စ။</u>

ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်သီဂီတင်က အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်မရှင်၏ (၉/၂၀၀၀) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ရာ အစည်းအဝေးမှ လုပ်ငန်းဆောင်ရွက်ရန် မူအားဖြင့် သဘောတူကြောင်းနှင့် ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ကောက်ခံမည့် လမ်းတံတားအသုံးပြုခနှုန်းများကို ပြန်လည်စိစစ်ပြီး ကော်မရှင်သို့ တင်ပြလာပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါကြောင်း၊ ယခုအခါ ကုမ္ပဏီမှ အဆိုပြုတင်ပြသော လမ်းတံတားအသုံးပြုခနှုန်းများအတိုင်း လက်ခံခွင့်ပြုသင့်ပါကြောင်း ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ပြန်လည်တင်ပြလာခြင်းဖြစ်ပါ

လွှဲရက်



ကြောင်း ရှင်းလင်းတင်ပြပါသည်။

ကော်မရှင်အစည်းအဝေးမှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း အဆိုပြုချက်ကို ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ပါသည်။

| | | |
|---|---|---|
| ဆုံးဖြတ်ချက်။ | | |
| | - အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန်မူအားဖြင့် သဘောတူသဖြင့် ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ဆောက်လုပ်ရေး ဝန်ကြီးဌာန |

သို့ရက်

၆/၂၀၀၀
MTC



စားပွဲတင်

၁၅။ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်(Hong Pang Construction Co. Ltd) ကျိုင်းတုံ–တာချီလိတ်ကားလမ်းအား အသည် ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။

ဒုတိယညွှန်ကြားရေးမှူးချုပ် ဒေါ်သီဂီတင်က ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ–တာချီလိတ်ကားလမ်းအား အသည် ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြု တင်ပြချက်၏ အဓိကအချက်အလက်များကို ရှင်းလင်းတင်ပြပါသည်။

ဥက္ကဋ္ဌ ဝန်ကြီး ဦးသောင်းက အဆိုပြုလုပ်ငန်း၏ လမ်းတံတား အသုံးပြုခနှုန်းထားများ ကောက်ခံမှုမှာ အခြားအလားတူကုမ္ပဏီများမှ ကောက်ခံသည့်နှုန်းထားထက်များနေသည်ကို တွေ့ရှိရကြောင်း၊ အဆိုပါနှုန်းထားများကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ စိစစ်ကာ ကော်မရှင်သို့ ပြန်လည်တင်ပြရန်လိုအပ်ကြောင်း ပြောကြားပါသည်။

အစည်းအဝေးမှ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ရန် မူအားဖြင့် သဘောတူကြောင်းနှင့် လမ်းတံတားအသုံးပြုခနှုန်းထားများကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြလာက ကုန်သွယ်မှုမူဝါဒကောင်စီသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ပါသည်။

| | |
|---|---|
| စားပွဲတင်<br>၁၅။ ဟုန်းပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်(Hong Pang Construction Co., Ltd) မှကျိုင်းတုံ–တာချီလိတ်ကားလမ်းအား အသည် ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်းကိစ္စ။<br>ဆုံးဖြတ်ချက်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူကြောင်း၊<br>- ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ကောက်ခံမည့်လမ်းတံတားအသုံးပြုခနှုန်းများကိုပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြလာက ကုန်သွယ်မှုမူဝါဒကောင်စီသို့ဆက်လက်တင်ပြရန် | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ဆောက်လုပ်ရေးဝန်ကြီးဌာန။ |

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏ အဓိကအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ဟုန်ပန်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd.) ( ၂၄-၆-၉၀ နေ့တွင်မှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်း အဆိုပြုသူအမည် | ဦးခင်မောင်မြင့် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | ကျိုင်းတုံ-တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင်ဖေါက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း ။ |
| ၄။ | တည်နေရာ | မိုင်းလား၊ တောင်ကြီး ၊ ကျိုင်းတုံ-တာချီလိတ် ပြည်ထောင်စုလမ်းမကြီး ( ကျိုင်းတုံ-တာချီလိတ် လမ်းအပိုင်း ) ရှမ်းပြည်နယ်အရှေ့ပိုင်း ။ |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၃၁၀၀.၀၀ သန်း (US$ ၃၀.၀၀ သန်း အပါအဝင် ) |
| | - ငွေပမာဏ | ကျပ် ၃၀၂၁.၈၈ သန်း (US$ ၃.၆၅ သန်း အပါအဝင် ) |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၂၇.၅၅ သန်း ( US$ ၄.၅၉ သန်း ) |
| | - ကုန်ကြမ်း | ကျပ် ၁၃၀.၅၇ သန်း (US$ ၂၁.၇၆ သန်း ) |
| ၆။ | လမ်း နယ်နမိတ် | ဆောက်လုပ်ရေး ဝန်ကြီး ဌာနပိုင် ( ကျိုင်းတုံ-တာချီလိတ်လမ်း အပိုင်း ) မိုင်တိုင်အမှတ်၊ ၃၉၇/၄မှ၄၉၉/၆ထိ ( ၁၀၂ ) မိုင် ( ၂ ) ဖါလုံ ( ကျေးရွာများ အကွင်း ဖြတ်သန်း သည့်နေရာများ နှင့်မြို့တွင်း လမ်းများ မှအပအကျယ်ပေ ၂၀၀ ) |
| ၇။ | လုပ်ငန်း သက်တမ်း | နှစ် ( ၃၁ ) ၊ ၅ နှစ် ( ၂ ) ကြိမ်တိုး မြှင့်ခွင့် |

| အမှတ်စဉ် | ဘိဂျိုင်း ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် / သိသိရန် |
|---|---|---|
| ၁ | ၂ | ၃ |
| | **စားပွဲတင်** | |
| ၁၅။ | ဟုန်းပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd) မှ ကျိုင်းတုံ-တာချီလိတ်ကား လမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။ | |
| | ဆုံးဖြတ်ချက်။ | |
| | - အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့် သဘောတူကြောင်း၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် |
| | - ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ ကောက်ခံမည့်လမ်းတံတား အားအသုံးပြုခနှုန်းများကို ပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြလာကာ ကုန်သွယ်မှုမူဝါဒ ကော်မတီသို့ဆက်လက်တင်ပြရန် | ဆောက်လုပ်ရေး ဝန်ကြီးဌာန။ |
| | Lucky Industries Overseas Ltd. - ၏ ခွင့်ပြုမိန့်အား သက်တမ်းတိုးပေးရန် တင်ပြခြင်း ကိစ္စ။ | |
| | ဆုံးဖြတ်ချက်။ | |
| | - ကုမ္ပဏီမှ တာဝန်ရှိသူအား အမှတ်(၁) စက်မှုဝန်ကြီး ဌာနမှ ခေါ်ယူမေးမြန်းရန်၊ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် အမှတ်(၁) စက်မှုဝန်ကြီး ဌာန မြန်မာ့ အထည်အလိပ် လုပ်ငန်း။ |

9/2000

၀၁း ငွဲတင်

လျှို့ဝှက်

လုပ်ငန်း စီမံကိန်း အဆိုပြုချက်၏အဓိကအချက်များ

(မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ )

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | ဟုန်ပန်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd.)<br>(၂၄-၆-၉၈ နေ့တွင်မှတ်ပုံတင်ပြီး ) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | ဦးခင်မောင်မြင့် |
| ၃။ | အဆိုပြုလုပ်ငန်း အမျိုးအစား | ကျိုင်းတုံ-တာချီလိတ်ကားလမ်း အား တည်ဆောက် ပြုပြင် ဖောက်လုပ်၍လမ်းအသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း ။ |
| ၄။ | တည်နေရာ | မိတ္ထီလာ၊ တောင်ကြီး ၊ ကျိုင်းတုံ-တာချီလိတ် ပြည်ထောင်စုလမ်းမကြီး (ကျိုင်းတုံ-တာချီလိတ် လမ်းအပိုင်း ) ရှမ်းပြည်နယ်အရှေ့ပိုင်း ။ |
| ၅။ | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု | ကျပ် ၃၁၈၀.၀၀သန်း(US$ ၃၀.၀၀သန်း အပါအဝင်) |
| | - ငွေပမာဏ | ကျပ် ၃၀၂၁.၈၈သန်း(US$ ၃.၆၅သန်း အပါအဝင်) |
| | - စက်ပစ္စည်း ကိရိယာ | ကျပ် ၂၇.၅၅သန်း( US$ ၄.၅၈သန်း ) |
| | - ကုန်ကြမ်း | ကျပ် ၁၃၀.၅၇သန်း(US$ ၂၁.၇၆သန်း ) |
| ၆။ | လမ်းနယ်နမိတ် | ဆောက်လုပ်ရေးဝန်ကြီးဌာနပိုင်( ကျိုင်းတုံ-တာချီလိတ်လမ်း အပိုင်း ) မိုင်တိုင်အမှတ်၊ ၃၉၇/၄မှ၄၉၉/၆ထိ( ၁၀၂ ) မိုင်( ၂ )ဖာလုံ ( ကျေးရွာများ အတွင်း ဖြတ်သန်းသည့်နေရာ များ နှင့်မြို့တွင်း လမ်းများ မှအပအကျယ်ပေ ၂၀၀ ) |
| ၇။ | လုပ်ငန်းသက်တမ်း | နှစ်( ၃၀ )၊ ၅နှစ်( ၂ )ကြိမ်တိုး မြှင့်ခွင့် |

| | | |
|---|---|---|
| ၈။ | ဝန်ဆောင်မှု | ကျိုင်းတုံ-တာချီလိတ်ကား လမ်း အား တည်ဆောက် ပြုပြင်ဖောက်လုပ်၍ လမ်း အသုံးပြုခ ကောက်ခံခြင်း လုပ်ငန်း |
| ၉။ | ကောက်ခံမည့်လမ်း တံတား အသုံးပြုခ နှုန်း များ | <u>ပြည်တွင်း မှတ်ပုံတင်ယာဉ်များ</u><br>(၁စီး နှုန်း) |
| | - ယာဉ်ငယ် (၁တန် အောက်) | ကျပ် ၁၀၀ |
| | - ယာဉ်လတ် (၁တန်၊ ၂တန်၊ ၃တန် နှင့် ၄တန်) | ကျပ် ၄၀၀ |
| | - ခရီးသည်တင်ကား (အကြီး) ကုန်မပါ | ကျပ် ၆၀၀ |
| | - ကုန်တင်ယာဉ် (အလတ်) (၁၀တန်အထိ) | ကျပ် ၁၂၀၀ |
| | - ကုန်တင်ယာဉ်များ (အကြီး) (၂၀တန်အထိ) | ကျပ် ၂၅၀၀<br>(တန် ၂၀ နှင့်အထက်ယာဉ်များ သည် နောက်ထပ် ပိုသော (၁) တန်တိုင်း အတွက်ကျပ် (၃၀၀) စီ ထပ်မံပေး ဆောင်ရမည်ဖြစ်ပါသည်။ နှုန်းများ ကိုမည်သို့ပင်သတ်မှတ် စေကာမူ နိုင်ငံတော်မှ အခါအား လျော်စွာသတ်မှတ်သည့်နှုန်း အတိုင်း ကောက်ခံရန်ဖြစ်ပါသည်။) |
| ၁၀။ | နိုင်ငံတော်သို့ပေး သွင်း ရမည့် နှုန်း<br>(စုစုပေါင်း လမ်း တံတားအသုံးပြုခ ကောက်ခံရငွေ၏) | (၁) နှစ်မှ (၃) နှစ် မြောက်အထိကင်းလွတ်ခွင့်<br>(၄) နှစ်မှ (၁၃) နှစ် မြောက်အထိ ၁၀%<br>(၁၄) နှစ်မှ (၂၃) နှစ် မြောက်အထိ ၂၀%<br>(၂၄) နှစ်မှ နှစ် (၃၀) အထိ ၃၀% |

| | | |
|---|---|---|
| ၁၁။ | ဘဏ်အာမခံကြေး | စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း (၃၀) အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ ၁% နှင့်ညီမျှသော ငွေကို ဘဏ်အာမခံကြေး ငွေအဖြစ်ထားရှိပေးရမည်။ ယင်း သက်တမ်း သည်စတင်ထုတ်ပေးသည့်နေ့မှလုပ်ငန်း ပြီးဆုံး အောင်ဆောင်ရွက်သည့်အထိဖြစ်ပါသည်။ ယှဉ်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သည်လုပ်ငန်း စတင်ရန်အကြောင်းကြား စာရပြီး ရက်ပေါင်း (၃၀) အတွင်း လုပ်ငန်း စတင်ရန်ပကွက်လျှင်သော်လည်းကောင်း၊ (၂၄) လအတွင်း လုပ်ငန်း ပြီးဆုံး အောင်မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း၊ ယင်း ဘဏ်အာမခံငွေကို ဆောက်လုပ်ရေး လုပ်ငန်း မှသိမ်းယူမည်ဖြစ်ပါသည်။ |
| ၁၂။ | ဝင်ငွေ (တစ်နှစ်ပျမ်းမျှ) | ကျပ် ၁၂၇၇.၉၆ သန်း |
| ၁၃။ | အသားတင်အမြတ်/အရှုံး (တစ်နှစ်ပျမ်းမျှ) | ကျပ် ၅၉၀.၀၀ သန်း<br>US$ (-) ၁.၄၀ သန်း |
| ၁၄။ | အရင်းကြေကာလ | (၁၆) နှစ် |
| ၁၅။ | အရင်းအနှီး အပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | (၉) ရာခိုင်နှုန်း |
| ၁၆။ | နိုင်ငံတော်မှတစ်နှစ်ပျမ်းမျှ ရရှိမည့်အကျိုးအမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၂၅၄.၅၅ သန်း |
| | - လမ်းဘ်တား ဖြတ်သန်းခရငွေ | ကျပ် ၃၁၀.၄၁ သန်း |
| ၁၇။ | ဝန်ထမ်း အင်အား | ၂၇၀ ဦး |
| | - ပြည်တွင်း | ၂၆၅ ဦး |
| | - ပြည်ပ | ၅ ဦး |

| | | |
|---|---|---|
| ၁၈။ | တည်ဆောက်မှုကာလ | လမ်း (၂၄) လ<br>(ပေ၃၀၀တံတားကြီး (၂) စင်း မှလွဲ၍ကျန် တံတားအားလုံးကိုလမ်းနှင့်တစ်ပြိုင်တည်း တည်ဆောက်ရန်) |
| ၁၉။ | အခြား | - စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများကိုမလေးရှားနိုင်ငံ Euro Tech Engineering and Machinery Sdn Bhd မှ ရွှေ့ဆိုင်းငွေပေးချေခြင်းစနစ်ဖြင့်ရယူမည်ဖြစ်ပြီး ၊ တစ်နှစ်လျှင်အတိုးနှုန်း (၅) ရာခိုင်နှုန်းဖြင့် (၁၆) နှစ်အတွင်း ပေးဆပ်ရမည်ဖြစ်ပါသည်။<br>- စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်း စာရင်းကိုပူးတွဲတင်ပြထားပါသည်။<br>- တွက်ချက်ဖော်ပြမှုအရ<br>(၁) လုပ်ငန်းတည်ဆောက်မှုစတင်သည့်တစ်ချိန်တည်းတွင်လမ်း / တံတားဖြတ်သန်းခများ ကောက်ခံထားကြောင်း တွေ့ရှိရပါသည်။<br>(၂) လုပ်ငန်းစတင်သည့်နှစ်အစတွင် ချေးငွေ ပြန်လည်ပေးဆပ်ကြောင်း တွေ့ရှိရပါသည်။<br>- ပြည်ပချေးငွေပြန်လည်ပေးဆပ်မှုနှင့်ပတ်သက်၍ စိုက်ပျိုးရေး မွေးမြူရေး နှင့်ကုန်ထုတ်လုပ်မှု နှင့်အခြားဝန်ဆောင်မှုလုပ်ငန်းများ မှရရှိသော နိုင်ငံခြား ငွေဖြင့်ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။<br>- လမ်းသား တည်ဆောက်ရာတွင်ယာဉ်နှင့်ကုန် ဝန်ပေါင်း တန် (၄၁) ခံနိုင်ရည်ရှိရန်နှင့်တံတား များ တည်ဆောက်ရာတွင်ယာဉ်နှင့်ကုန် ဝန်ပေါင်း တန် (၆၀) ခံနိုင်ရန်တည်ဆောက်ရမည်ဖြစ် |

ပါသည်။

[ စာချုပ်မူကြမ်း အပိုဒ် ၄ ([illegible]) (ခ) ]

- လုပ်ငန်းစတင်ဆောင်ရွက်မည့်နေ့မှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လုပ်ငန်းစတင်ရန် အကြောင်းကြားစာကို လက်ခံရရှိသည့်နေ့ ဖြစ်ပါသည်။

[ စာချုပ်မူကြမ်း အပိုဒ် ၈ (က) ]

- နိုင်ငံတော်သို့ ပေးသွင်းရမည့် လမ်း၊ တံတား အသုံးပြုခရငွေများကို ပေးသွင်းရမည့်ရက် ထက်နောက်ကျ ပေးသွင်းပါက ပေးသွင်းရမည့် ရက်ထက် (၁၀) ရက်ကျော်တိုင်း ပေးသွင်းရမည့် ငွေပမာဏ၏ (၅) ရာခိုင်နှုန်းစီကို နောက်ကျကြေး အဖြစ်အပိုဆောင်း၍ ပေးရမည်ဖြစ်ပါသည်။

[ စာချုပ် (မူကြမ်း) အပိုဒ် ၁၁ (စ) ]

- ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့်ခံလုပ်ကိုင်ခွင့်ပြုနိုင်ပါသည်။

[ စာချုပ် (မူကြမ်း) အပိုဒ် ၁၄ ]

- လုပ်ငန်းကာလနှစ် (၃၀) သို့မဟုတ် နောက်ထပ် တိုးမြှင့်ကာလပြီးဆုံးပါက အဆိုပါလမ်း၊ တံတား၊ ဂိတ်များ၊ အဆောက်အဦများကို အဖိုးစားနား တစ်စုံတစ်ရာမပါရှိဘဲ ကောင်းမွန်သောအနေ အထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း သို့လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

[ စာချုပ် (မူကြမ်း) အပိုဒ် ၃၃ ]

- ယင်းလုပ်ငန်းသည်မြန်မာနိုင်ငံသားများ သာလျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှု မရှိကြောင်း၊ လမ်းတံတားတည်ဆောက်ပြုပြင် ဖောက်လုပ်ခြင်းနှင့်ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း သည့်စည်းကမ်းသတ်မှတ်ချက်များကိုလိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း၊ လုပ်ငန်းအသစ် ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် မီးဘေးအန္တရာယ်များ မဖြစ်ပွါးစေရန်လို အပ်သောအစီအမံများ၊ ကြိုတင်ကာကွယ်မှုများ ပြုလုပ်ထားမည်ဖြစ်ကြောင်း၊ ဝန်ခံကတိ ပြုထားပါသည်။

- ငွေရေးကြေးရေးဆိုင်ရာအထောက်အထား အဖြစ်ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် အမည်ဖြင့်မြန်မာမေဖလားဝါးဘဏ်လီမိတက် ၌(၁၁-၁၂-၉၉)နေ့ဘဏ်လက်ကျန်ငွေမှာ ကျပ်(၁၁၀.)သန်းရှိပါကြောင်းတင်ပြထားပါ သည်။

- [illegible] ပုဒ်မ ၁၂ နှင့် ၁၃ အရ အခွန် [illegible]ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုရန်လျှောက်ထားလာပါသည်။

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း – ၂၅၂၇၅၆။

စာအမှတ်၊ ရက – ၁ / မ – ၅၆၇ / ၂၀၀၀ ( ၁၅၅ – ၈ )၊
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဧပြီလ ၁၁ ရက်။

အကြောင်းအရာ။ ။ ဟုန်ပန်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Hong Pang Construction Co., Ltd. – ) မှ ကျိုင်းတုံ – တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက်။ ။ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Hong Pang Construction Co.,Ltd. ) ၏ (၁၄-၁၂-၉၉) နေ့စွဲပါစာ။

၁။ ဟုန်ပန်း ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် ( Hong Pang Construction Co., Ltd. ) မှ ကျိုင်းတုံ – တာချီလိတ်ကားလမ်းအား တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြခြင်းကိစ္စနှင့်စပ်လျဉ်း၍ ( ၁၆ – ၃ – ၂၀၀၀ ) နေ့တွင်ကျင်းပပြုလုပ်သော ကော်မရှင်၏ ( ၉ / ၂၀၀၀ ) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၂။ အဆိုပါအစည်းအဝေးမှ အောက်ပါအတိုင်းဆုံးဖြတ်ခဲ့ပါသည်။

( က ) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် မူအားဖြင့်သဘောတူကြောင်း၊

( ခ ) ကောက်ခံမည့်လမ်းတံတားအသုံးပြုခနှုန်းထားများကို ဆောက်လုပ်ရေးဝန်ကြီးဌာနမှ ပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြလာပါက ကုန်သွယ်မှုမူဝါဒကောင်စီသို့ဆက်လက်တင်ပြရန်၊

၃။ သို့ဖြစ်ပါ၍ အထက်ပါဆုံးဖြတ်ချက်အရ လမ်းတံတားအသုံးပြုခနှုန်းထားများ ပြန်လည်စိစစ်ပြီး ကော်မရှင်သို့တင်ပြပါရန် အကြောင်းကြားအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ဗိုလ်ချုပ်တင်ထွတ်၊ ဒုတိယဥက္ကဋ္ဌ )
ဝန်ကြီး၊ လျှပ်စစ်စွမ်းအားဝန်ကြီးဌာန။

ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန။

အတွေတွေ အရပ်ရပ် - ၁၆
( ရုံးတွင်းစာ အကျဉ်းချုပ် သို့တည်းမဟုတ် စာကြမ်းရေးရန် အတွက် )

အကြောင်း အရာ။ ။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ - တာချီလိတ်ကား လမ်း အားတည် ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်း အသုံး ပြုခ ကောက်ခံခြင်း ။

အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ - တာချီလိတ်ကား လမ်း အား တည် ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်း အသုံး ပြုခ ကောက်ခံခြင်း လုပ်ငန်း ဆောင်ရွက်ရန်အဆိုပြုတင်ပြခြင်း နှင့်ပတ်သက်၍ ( ၁၆ - ၃ - ၂၀၀၀ ) နေ့တွင်ကျင်းပ ပြုလုပ် သော မြန်မာနိုင်ငံရင်း နှီး မြှုပ်နှံမှုကော်မရှင်၏ ( ၉ / ၂၀၀၀ ) ကြိမ် မြောက်အစည်းအဝေး ဆုံး ဖြတ်ချက်အား သက်ဆိုင်ရာသို့အကြောင်း ကြား မည့် `စာချော` ကိုအတည်ပြု လက်မှတ် ရေး ထိုး ပေး နိုင်ပါရန်တင်ပြအပ်ပါသည်။

၁၀ - ၄ - ၂၀၀၀

ဒုတိယဥက္ကဋ္ဌ

ဝင်း / *

| | | |
|---|---|---|
| ၈။ | ဝန်ဆောင်မှု | ကျိုင်းတုံ–တာချီလိတ်ကားလမ်းအားတည်ဆောက် ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်း လုပ်ငန်း |
| ၉။ | ကောက်ခံမည့်လမ်းတံတား အသုံးပြုခနှုန်းများ | <u>ပြည်တွင်းမှတ်ပုံတင်ယာဉ်များ</u><br>(၁စီး နှုန်း) |
| | - ယာဉ်ငယ် (၁တန်အောက်) | ကျပ် ၁၀၀ |
| | - ယာဉ်လတ် (၁တန်၊ ၂တန်၊ ၃တန် နှင့်၄တန် | ကျပ် ၄၀၀ |
| | - ခရီးသည်တင်ကား (အကြီး) ကုန်မပါ | ကျပ် ၆၀၀ |
| | - ကုန်တင်ယာဉ် (အလတ်) (၁၀တန်အထိ) | ကျပ် ၁၂၀၀ |
| | - ကုန်တင်ယာဉ်များ (အကြီး) (၂၀တန်အထိ) | ကျပ် ၂၅၀၀<br>(တန်၂၀နှင့်အထက်ယာဉ်များသည် နောက်ထပ် ပိုသော (၁) တန်တိုင်းအတွက်ကျပ် (၃၀၀) စီ ထပ်မံပေးဆောင်ရမည်ဖြစ်ပါသည်။ နှုန်းများ ကိုမည်သို့ပင်သတ်မှတ်စေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာသတ်မှတ်သည့်နှုန်းအတိုင်း ကောက်ခံရန်ဖြစ်ပါသည်။) |
| ၁၀။ | နိုင်ငံတော်သို့ပေးသွင်းရမည့် နှုန်း<br>(စုစုပေါင်းလမ်းတံတားအသုံးပြု ခကောက်ခံရငွေ၏ ) | (၁) နှစ်မှ (၃) နှစ်မြောက်အထိကင်းလွတ်ခွင့်<br>(၄) နှစ်မှ (၁၃) နှစ်မြောက်အထိ ၁၀%<br>(၁၄) နှစ်မှ (၂၃) နှစ်မြောက်အထိ ၂၀%<br>(၂၄) နှစ်မှနှစ် (၃၀) အထိ ၃၀% |

| | | |
|---|---|---|
| ၁၁။ | ဘဏ်အာမခံကြေး | စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း ( ၃၀ ) အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ ၁ % နှင့်ညီမျှသော ငွေကို ဘဏ်အာမခံကြေး ငွေအဖြစ်ထား၍ ပေးရမည်။ ယင်းသက်တမ်းသည်စတင်ထုတ်ပေးသည့်နေ့မှလုပ်ငန်းပြီးဆုံး အောင်မြင်ဆောင်ရွက်သည်အထိဖြစ်ပါသည်။ ဖုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်သည်လုပ်ငန်း စတင်ရန်အကြောင်းကြား စာရပြီး ရက်ပေါင်း ( ၃၀ ) အတွင်း လုပ်ငန်း စတင်ရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ ( ၂၄ ) လအတွင်း လုပ်ငန်းပြီးစီး အောင်မဆောင်ရွက်နိုင်လျှင်သော်လည်းကောင်း၊ ယင်းဘဏ်အာမခံငွေကို ဆောက်လုပ်ရေးလုပ်ငန်းမှ သိမ်းယူမည်ဖြစ်ပါသည်။ |
| ၁၂။ | ဝင်ငွေ ( တစ်နှစ်ပျမ်းမျှ ) | ကျပ် ၁၂၇၇.၉,၆သန်း |
| ၁၃။ | အသားတင်အမြတ်/အရှုံး ( တစ်နှစ်ပျမ်းမျှ ) | ကျပ် ၅၉၀.၀၀သန်း<br>US$ (-) ၁.၄၀သန်း |
| ၁၄။ | အရင်းကြေကာလ | ( ၁၆ ) နှစ် |
| ၁၅။ | အရင်းအနှီး အပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ( ၉ ) ရာခိုင်နှုန်း |
| ၁၆။ | နိုင်ငံတော်မှ တစ်နှစ်ပျမ်းမျှ ရရှိမည့်အကျိုး အမြတ် | |
| | - ဝင်ငွေခွန် | ကျပ် ၂၅၄.၅၅သန်း |
| | - လမ်းတံတားဖြတ်သန်းခရငွေ | ကျပ် ၃၁၀.၄၁သန်း |
| ၁၇။ | ဝန်ထမ်းအင်အား | ၂၇၀ဦး |
| | - ပြည်တွင်း | ၂၆၅ဦး |
| | - ပြည်ပ | ၅ဦး |

| | | |
|---|---|---|
| ၁၈။ | တည်ဆောက်မှုကာလ | လမ်း (၂၄)လ<br>(ပေ၃၀၀တံတားကြီး (၂)ခုမှလွဲ၍ကျန် တံတားအားလုံးကိုလမ်းနှင့်တစ်ပြိုင်တည်းတည် ဆောက်ရန်) |
| ၁၉။ | အခြား | -စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းများကိုမလေး ရှားနိုင်ငံ Euro Tech Engineering and Machinery Sdn Bhdမှ ချေးငွေပေးချေခြင်း စနစ်ဖြင့်ရယူမည်ဖြစ်ပြီး ၊ တစ်နှစ်လျှင်အတိုးနှုန်း (၅)ရာခိုင်နှုန်းဖြင့် (၁၆)နှစ်အတွင်း ပေးဆပ်ရမည်ဖြစ်ပါသည်။<br>-စက်ပစ္စည်းနှင့်ကုန်ကြမ်းပစ္စည်းစာရင်းကိုပူး တွဲတင်ပြထားပါသည်။<br>-တွက်ချက်ဖော်ပြမှုအရ<br>(၁)လုပ်ငန်းတည်ဆောက်မှုစတင်သည့်တစ်ချိန် တည်းတွင်လမ်း/တံတားဖြတ်သန်းခများ ကောက်ခံထားကြောင်းတွေ့ရှိရပါသည်။<br>(၂)လုပ်ငန်းစတင်သည့်နှစ်အစတွင်ချေးငွေ ပြန်လည်ပေးဆပ်ကြောင်းတွေ့ရှိရပါသည်။<br>-ပြည်ပချေးငွေပြန်လည်ပေးဆပ်မှုနှင့်ပတ်သက် ၍စိုက်ပျိုးရေးမွေးမြူရေးနှင့်ကုန်ထုတ်လုပ်မှု နှင့်အခြားဝန်ဆောင်မှုလုပ်ငန်းများမှရရှိ သောနိုင်ငံခြားငွေဖြင့်ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။<br>-လမ်းသားတည်ဆောက်ရာတွင်ယာဉ်နှင့်ကုန် ဝန်ပေါင်းတန်(၄၀)ခံနိုင်ရည်ရှိရန်နှင့်တံတား များတည်ဆောက်ရာတွင်ယာဉ်နှင့်ကုန်ဝန်ပေါင်း တန်(၆၀)ခံနိုင်ရန်တည်ဆောက်ရမည်ဖြစ် |

ပါသည်။

[ ၁၁ ချုပ်မှုကြမ်း အပိုဒ် ၄(ဂ)(ဃ) ]

- လုပ်ငန်းစတင်ဆောင်ရွက်မည့်နေ့မှာ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းမှ လုပ်ငန်းစတင်ရန်အကြောင်းကြားစာကို လက်ခံရရှိသည့်နေ့ဖြစ်ပါသည်။

[ ၁၁ ချုပ်မှုကြမ်း အပိုဒ် ၈ (က) ]

- နိုင်ငံတော်သို့ပေးသွင်းရမည့်လမ်း၊ တံတားအသုံးပြုခရငွေများကို ပေးသွင်းရမည့်ရက်ထက်နောက်ကျပေးသွင်းပါက ပေးသွင်းရမည့်ရက်ထက် (၁၀) ရက်ကျော်တိုင်း ပေးသွင်းရမည့်ငွေပမာဏ၏ (၅) ရာခိုင်နှုန်းစီကို နောက်ကျကြေးအဖြစ် အပိုဆောင်း၍ ပေးရမည်ဖြစ်ပါသည်။

[ ၁၁ ချုပ်(မှုကြမ်း) အပိုဒ် ၁၁(စ) ]

- ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည် လုပ်ငန်းတစ်ခုလုံးအား တစ်ဆင့်ခံလုပ်ကိုင်ခွင့် မပြုရဘဲ လုပ်ငန်းတစ်စိတ်တစ်ဒေသကိုမူ တစ်ဆင့်ခံလုပ်ကိုင်ခွင့်ပြုနိုင်ပါသည်။

[ ၁၁ ချုပ်(မှုကြမ်း) အပိုဒ် ၁၄ ]

- လုပ်ငန်းကာလနှစ် (၃၀) သို့မဟုတ် နောက်ထပ်တိုးမြှင့်ကာလပြီးဆုံးပါက အဆိုပါလမ်း၊ တံတား၊ ဂိတ်များ၊ အဆောက်အဦများကို အဖိုးစားနားတစ်စုံတစ်ရာမပေးရဘဲ ကောင်းမွန်သောအနေအထားအတိုင်း ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ လွှဲပြောင်းပေးရမည်ဖြစ်ပါသည်။

[ ၁၁ ချုပ်(မှုကြမ်း) အပိုဒ် ၃၃ ]

- ယင်း လုပ်ငန်း သည်မြန်မာနိုင်ငံသား များ သိ လျှင်ပိုင်ဆိုင်ပြီး နိုင်ငံခြား မှ မည်သူမျှပိုင်ဆိုင်မှု မရှိ ကြောင်း ၊ လမ်း တံတား တည် ဆောက်ပြုပြင် ဖောက်လုပ်ခြင်း နှင့် ပတ်သက်၍သတ်မှတ်ပြဋ္ဌာန်း သည့်စည်း ကမ်း သတ်မှတ်ချက် များ ကိုလိုက်နာ ဆောင်ရွက်မည်ဖြစ် ကြောင်း ၊ လုပ်ငန်းအသစ် ဖြစ် ကြောင်း ၊ ပတ်ဝန်း ကျင်ညစ်ညမ်း မှုနှင့် မိုး ဘေး အန္တရာယ်များ မဖြစ်ပွါး စေရန်လို အပ် သော အစီအမံ များ ၊ ကြိုတင်ကာကွယ် မှုများ ပြုလုပ်ထား မည်ဖြစ် ကြောင်း ၊ ဝန် ခံကတိ ပြု ထား ပါ သည်။

- ငွေ ရေး ကြေး ရေး ဆိုင်ရာအ ထောက်အထား အဖြစ်ဟုန်ပန်း ဆောက်လုပ် ရေး ကုမ္ပဏီလီမိတက် အမည်ဖြင့်မြန်မာ မေဖလား ဝါး ဘဏ်လီမိတက် ၌ ( ၁၁ - ၁၂ - ၉၉ ) နေ့ဘဏ်လက်ကျန် ငွေ မှာ ကျပ် ( ၁၁၀ ) သန်း ရှိပါကြောင်း တင်ပြထား ပါ သည်။

- ပူး တွဲပါဥပဒေပုဒ်မ ၁၂ နှင့် ၁၃ အရအခွန် ဆိုင်ရာကင်း လွတ်ခွင့်နှင့်သက်သာခွင့်များ ကို ခံစား ခွင့်ပြုရန် လျှောက်ထား လာ ပါသည်။

**ရှမ်း/မြောက်အထူးဒေသ (၂) ဟုန်ပန်း ကုမ္ပဏီလီမိတက်**

**ရှမ်းပြည်နယ်အရှေ့ပိုင်း၊ တာချီလိတ်မြို့**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ HP , ROO 5, ၂၈၀၃/၀၀
ရက်စွဲ၊ (၂၈) ရက်၊ မတ်လ၊ ၂၀၀၀ ခုနှစ်

အကြောင်းအရာ။ ။ <u>ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်း ပြုပြင်ဖောက်လုပ်ခြင်းအတွက် လမ်းတံတား အသုံးပြုခကောက်ခံနိုင်မည့် နှုန်းထားကို သတ်မှတ်ခွင့် ပြုပေးနိုင်ရန် လျှောက်ထားခြင်း။</u>

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ “ ဝ ” အထူးဒေသ (၂) ဟုန်ပန်းကုမ္ပဏီမှ ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်းကို တာဝန်ယူဖောက်လုပ်လျှက်ရှိပါသည်။ ကျွန်တော်တို့ ကုမ္ပဏီသည် ဒေသတွင်း လမ်းပန်းဆက်သွယ်ရေးကောင်းမွန်ပြီး ဖွံ့ဖြိုးတိုးတက်လာနိုင်ရန် အတွက်လည်းကောင်း နိုင်ငံတော်၏ အခြေခံတည်ဆောက်မှုလုပ်ငန်းတွင် တက်ကြွစွာ ပါဝင်ဆောင်ရွက် လည်းကောင်း၊ အကျိုးအမြတ်ကို အဓိက ပဓာနမထားဘဲ စိတ်ရင်းစေတနာကောင်းဖြင့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နေခြင်းဖြစ်ပါသည်။

၂။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ဒေသဖွံ့ဖြိုးရေးအတွက်သာမကဘဲ အိမ်နီးချင်းနိုင်ငံများနှင့် ရင်ဘောင်တန်းနိုင်ရေးနှင့် နိုင်ငံတော်၏ ကာကွယ်ရေးအတွက် လွန်စွာမှအရေးကြီးသော လမ်းဖြစ်ပါသည်။ ကျွန်တော်တို့ ကုမ္ပဏီမှ ကျိုင်းတုံ-တာချီလိတ်လမ်းကို အဖြစ်သဘောမျိုးပြုပြင်ဖောက်လုပ်နေခြင်း မဟုတ်ဘဲ ရည်ရွယ်ချက်ကြီးမားစွာဖြင့် စေတနာ ထက်သန်စွာ အရှုံးခံဖောက်လုပ်နေခြင်းဖြစ်ပါသည်။

၃။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ရာသီဥတုဆိုးရွားမှုနှင့် တောင်ပြိုကျမှုတို့ကြောင့် နှစ်ပေါင်းများစွာ သွားလာရေးပြတ်တောက်မှုအခက်အခဲများ ဖြစ်နေခဲ့ပါသည်။ (၁၀၂) မိုင် (၂) ဖာလုံရှိသော ခရီးကို ရက်ပေါင်းများစွာ သွားလာရသည့်အထိ ဆိုးရွားခဲ့ပါသည်။ သွားလာရေးခက်ခဲမှုကြောင့် ကုန်ဈေးနှုန်းများ အဆမတန်ကြီးမြင့်မှုရှိခဲ့ပါသည်။

ကျွန်တော်များ ကုမ္ပဏီမှ လမ်းကို ဖောက်လုပ်ပြီးစီးပါက(၁၀၂) မိုင် (၂) ဖာလုံ ခရီးကို (၃) နာရီခန့်ဖြင့် ခရီးရောက်ရှိနိုင်မည်ဖြစ်ပါသည်။ သွားလာရေးလွယ်ကူချောမွေ့မှုကြောင့် ယာဉ်များ သွားလာရာတွင် လွယ်ကူပြီး ယာဉ်ပျက်စီးခြင်းများ သက်သာ၍ သယ်ယူစရိတ်များကျဆင်းပြီး၊ ကုန်ဈေးနှုန်းကြီးမြင့်မှုကို လျှော့ကျစေနိုင်ပါသည်။

၄။ လမ်းအကျယ်မှာ ပေ(၃၀) ဖြစ်ပြီး၊ တန် (၄၀) အထက်ခံနိုင်ရည်ရှိရန် တည်ဆောက်ထားပါသည်။ တံတားများကိုလည်း (၃၅) ပေအကျယ်ရှိ တရုတ်ကျောက်စီခုံးတံတားအဖြစ် တည်ဆောက်ထားပြီး၊ တန် (၆၀) အထက်ခံနိုင်ရည်ရှိပါသည်။

လမ်းတံတားတည်ဆောက်မှုပုံစံမှာ လက်ရှိ မူစယ်-လားရှိုးလမ်းထက် များစွာအဆင့်မြင့်ပြီး၊ ရင်းနှီးမြုပ်နှံမှုပမာဏမှာလည်း များစွာပိုပါသည်။ သို့သော်ယာဉ်ဖြတ်သန်းမှုစီးရေမှာ မူစယ်-လားရှိုးလမ်းထက် အဆပေါင်းများစွာ လျော့နည်းလျက်ရှိကြောင်းတွေ့ရှိရပါသည်။

၅။ လမ်းဖြတ်သန်းခ ကောက်ခံသည့် နှုန်းထားများကို တပြေးညီ၊ တသမတ်တည်း ပုံစံမျိုးမဟုတ်ဘဲ၊ လုပ်ငန်းအခြေအနေအရပ်ရပ်ကို လေ့လာသုံးသပ်ပြီး ဈေးနှုန်းသတ်မှတ်ပေးပါက ပို၍ ဆီလျော်မည်ဟု ယူဆပါသည်။

၆။ ကျိုင်းတုံ-တာချီလိတ်လမ်း၏ လက်ရှိယာဉ်ဖြတ်သန်းမှုစီးရေမှာ (၁၀၀) ကျော်ခန့်သာရှိပါသည်။ တွက်ချက်မှုအရ ကျွန်တော်များကုမ္ပဏီ၏ အရင်းကြေကာလမှာ (၂၀)နှစ်ခန့်ကြာမြင့်မည်ဖြစ်ပါသည်။ ထို့ကြောင့် ကျိုင်းတုံ-တာချီလိတ် လမ်း၏ လမ်းတံတားဖြတ်သန်းမှုကောက်ခံသည့် နှုန်းထားကို ပြည်သူလူထုအတွက် ဝန်ထုပ်ဝန်ပိုးမဖြစ်စေရန်နှင့် ကုမ္ပဏီ၏ ရင်းနှီးမြုပ်နှံမှု များစွာ ဆုံးရှုံးမှုမဖြစ်စေရန် တွက်ချက်၍ အောက်ပါနှုန်းထားအတိုင်း ကောက်ခံခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

လမ်းတံတားအသုံးပြုခနှုန်းများ

| | | | |
|---|---|---|---|
| (၁) | ယာဉ်ငယ် (၁ တန်အောက်) | - ၁ စီးလျှင် ကျပ် | (၁၀၀) |
| (၂) | ယာဉ်လတ် (၁ တန်နှင့် ၂၃/၄ တန်) | - ၁ စီးလျှင် ကျပ် | (၄၀၀) |
| (၃) | ခရီးသည်တင်ကား (ကုန်မပါ) | - ၁ စီးလျှင် ကျပ် | (၆၀၀) |
| (၄) | ထရပ်ကားများ (အလတ်) (၁၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၁၂၀၀) |
| (၅) | ထရပ်ကားများ (၂၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၂၅၀၀) |

တန် (၂၀) နှင့် အထက်ယာဉ်များ နောက်ထပ် (၁) တန်ပိုတိုင်း ကျပ် (၃၀၀) ပေးဆောင်ရန် ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့် -

ခင်မောင်မြင့်
( ဒါရိုက်တာ )
ဟုန်ပန်းကုမ္ပဏီလီမိတက်၊
ဝ အထူးဒေသ (၂)

မိတ္တူကို-
(၁) ဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၂) ဒုတိယဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၃) ဦးဆောင်ညွှန်ကြားရေးမှူး (ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း)

သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းနှင့် ကျိုင်းတုံ - မိုင်းဖြတ် - တာချီလိတ်လမ်းပိုင်း ဖောက်လုပ်မည့် လမ်းတံတားနှင့် အသုံးပြုခ ကောက်ခံမည့်နှုန်းထားများ နှိုင်းယှဉ်ချက်

သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းဖောက်လုပ်မည့် လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၆၆ မိုင် | ၁၂ ပေ | ၆ ပေ | ၁၈ ပေ |

သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| မရှိ | ၂ စင်း | ၄၅ စင်း | ၁၁၅ ခု | ၁၈ ပေ |

သိန္နီ - ကွမ်းလုံ - ချင်းရွှေဟော် လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် - ၃ ခု

(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် - ၁ နေ့လျှင် အစီး ၁၀၀ မှ ၂၀၀ခန့်

(၃) ကောက်ခံမည့်နှုန်းထား

(က) ယာဉ်ငယ် (၁တန်အောက်) - ၁စီးလျှင် ကျပ်(၁၀၀)
(ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) - ၁စီးလျှင် ကျပ်(၃၀၀)
(ဂ) ခရီးသည်တင်ယာဉ်(အကြီး) - ၁စီးလျှင် ကျပ်(၅၀၀)
(ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) - ၁စီးလျှင်ကျပ်(၁၀၀၀)
(င) ထရပ်ကားများ(၂၀တန်ထိ) - ၁စီးလျှင်ကျပ်(၂၀၀၀)
၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၂၀၀)ပေးဆောင်ရမည်။

ကျိုင်းတုံ -မိုင်းဖြတ် -တာချီလိတ်လမ်းပိုင်းဖောက်လုပ်မည့်လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၁၀၂ မိုင် | ၂၄ ပေ | ၆ ပေ | ၃၀ ပေ |

ကျိုင်းတုံ -မိုင်းဖြတ် -တာချီလိတ်လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| ၃ စင်း | ၈ စင်း | ၄၂ စင်း | ၆၀၀ ခု | ၃၆ ပေ |

ကျိုင်းတုံ -မိုင်းဖြတ် -တာချီလိတ်လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ(အဆိုပြုဈေးနှုန်း)

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် - ၄ ခု

(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် - တနေ့လျှင် အစီး ၁၀၀ ခန့်

(၃) ကောက်ခံမည့်နှုန်းထား

(က) ယာဉ်ငယ် (၁တန်အောက်) - ၁စီးလျှင် ကျပ်(၁၀၀)
(ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) - ၁စီးလျှင် ကျပ်(၄၀၀)
(ဂ) ခရီးသည်တင်(အကြီး) (ကုန်မပါ) - ၁စီးလျှင် ကျပ်(၆၀၀)
(ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) - ၁စီးလျှင်ကျပ်(၁၂၀၀)
(င) ထရပ်ကားများ(၂၀တန်ထိ) - ၁စီးလျှင်ကျပ်(၂၅၀၀)
၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၃၀၀)ပေးဆောင်ရမည်။

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
၆၅၃ / ၆၉၁၊ ကုန်သည်လမ်း၊ ရန်ကုန်မြို့။

တယ်လီဖုန်း – ၂၅၂၇၅၆။

စာအမှတ်၊ ၇က – ၁ / မ – ၄ ၆ ၇ / ၉ ( (၁၁၆၇၉–က)
ရက်စွဲ၊ ၂၀၀၀ ပြည့်နှစ်၊ ဖေဖော်ဝါရီလ ၂၇ ရက်

အကြောင်းအရာ။ ။ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ–တာချီလိတ်လမ်း ပြုပြင် ဖောက်လုပ်ရေး လုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြုချက်တင်ပြခြင်း ကိစ္စ။

ရည်ညွှန်းချက်။ ။ ဆောက်လုပ်ရေး ဝန်ကြီးဌာန၏ (၇–၂–၂၀၀၀) ရက်စွဲပါစာအမှတ်၊ ၁ / ဒုံ – ၂ / ဓွေ / ၂၀၀၀ (ရှမ်း) (ဧ – ၄၁၀)။

အထက်အကြောင်းအရာပါ ဟုန်ပန်း ဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ–တာချီလိတ်လမ်း အပိုင်း ကိုပြုပြင် ဖောက်လုပ်ခြင်း လုပ်ငန်းဆောင် ရွက်ရန် အဆိုပြုချက်အပေါ် အောက်ပါ စိစစ်တွေ့ရှိချက်များ အား ပြန်လည်ပြင်ဆင်တင်ပြပေးပါရန် အကြောင်းကြားပါသည်။

၁။ နောက်ဆက်တွဲ (၆) Year – 10 အတွက် Contribution to State
– – ခံစားရမည့် အကျိုးအမြတ်များ ဖော်ပြခြင်း။

၂။ Pay back period – ဖော်ပြထားမှုမှားနေခြင်း။

၃။ နိုင်ငံခြား ချေးငွေစာချုပ်၏ နောက်ဆက်တွဲအဖြစ် ချေးငွေပမာဏ ချေးငွေပြန်လည်ပေးဆပ်မှုနှင့် နှစ်စဉ်ကျသင့်ငွေအတိုး စာရင်း ထား ပြင်ဖော်ပြပေးရန်၊

၄။ ချေး ငွေ ပေးဆပ်မှုအစီအစဉ်ဇယား နှင့် နောက်ဆက်တွဲ (၆)၊ နောက်ဆက်တွဲ (၇) စသည့်နေရာများ တွင်လိုက်လျောညီထွေပြင်ဆင်ရွက် ချက်ပေးရန်၊

၅။ နောက်ဆက်တွဲ (၇)၏ Construction period Net profit – နှင့် Depreciation – များ ပါဝင်နေမှုကိုပြင်ဆင်ပေးရန်၊

၆။ တင်ပြထားသည့် MOA / AOA – နှင့်ပတ်သက်၍ မပါရှိခြင်း။

၄။ ပုံစံ(၂၆)တွင်ပါဝင်သောဒါရိုက်တာအမည်စာရင်းတွင် List of Executive to be appointed - ၌ပါဝင်သော U Aik Kwe Director - ၏အမည်မပါရှိခြင်း။

၅။ ကျိုင်းတုံ-တာချီလိတ်လမ်း အငှားပြုပြင်ဆောက်လုပ်ခြင်းလုပ်ငန်း ကိုဟုန်မန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ ဆောင်ရွက်ရန် သဘောတူသည်ဟု သို့ကုမ္ပဏီ၏ B O D ဆုံးဖြတ်ချက်ထည့်သွင်း ဖော်ပြရန်၊

(ဦးသောင်း)

ဥက္ကဋ္ဌ

ဒါရိုက်တာ
ဟုန်းမန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်
အမှတ်(၅၂၅)၊ ကုန်သည်လမ်း၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

မိတ္တူ - ဆောက်လုပ်ရေးဝန်ကြီးဌာန။

* အေး * ၂၄-၂-၂၀၀၀

ဆောက်လုပ်ရေးဝန်ကြီးဌာန

ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

ဟာန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှ

ကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်းကို

ပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်း

ရက်စွဲ ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ (၁၄) ရက်



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀(ရှမ်း)(စီ ၂၀၆၂)
ရက် စွဲ ၊ ၂၀၀၀ ပြည့်နှစ် ဇွန်လ ၁၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ကျိုင်းတုံ-တာချီလိတ်လမ်းပြုပြင် ဖောက်လုပ်ရေးလုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြုတင်ပြချက်

ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd) မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းကို တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ရရှိရေးအတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့သို့တင်ပြနိုင်ရန်ဟုန်ပန်းဆောက်လုပ်ရေး ကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ(၂၁)စုံကို ပေးပို့အပ်ပါသည် ။

ဝန်ကြီး (ကိုယ်စား)

မိတ္တူကို

- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

-/အိ**



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀(ရှမ်း)(စီ ၁၅၅၆)
ရက် စွဲ ၊ ၂၀၀၀ ပြည့်နှစ် မေလ ၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ကျိုင်းတုံ-တာချီလိတ်လမ်းပြုပြင် ဖောက်လုပ်ရေးလုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြုတင်ပြချက်

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ် ဧပြီလ (၁၁)ရက်နေ့စွဲပါစာအမှတ်၊ ရက-၁/မ-၅၆၇/၂၀၀၀ (၁၅၅-ခ)

(၂) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၀၀ပြည့်နှစ်၊ဧပြီလ(၂၄)ရက်နေ့တွင် ကျင်းပခဲ့သည့် အစည်းအဝေးအမှတ်စဉ်(၁၃/၂၀၀၀)

ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် (Hong Pang Construction Co., Ltd) မှ ကျိုင်းတုံ-တာချီလိတ်ကားလမ်းကို တည်ဆောက်ပြုပြင်ဖောက်လုပ်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် အဆိုပြုချက်အပေါ် ရည်ညွှန်းချက် (၂)ပါ အစည်းအဝေးမှ ဆုံးဖြတ်ညွှန်ကြားချက်အရ ကုန်သွယ်မှုမူဝါဒကောင်စီသို့တင်ပြနိုင်ရန် ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာ(၁၆)စုံကို ပေးပို့အပ်ပါသည် ။

ဝန်ကြီး ( )

မိတ္တူကို
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

-/မာ**



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ် ၊ ၁/ခွဲ-၂/ထွေ/၂၀၀၀(ရှမ်း)(စီ ၄၁၀)
ရက် စွဲ၊ ၂၀၀၀ပြည့်နှစ် ဖေဖော်ဝါရီလ ၇ ရက်

သို့



ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ကျိုင်းတုံ-တာချီလိတ်လမ်း ပြုပြင်ဖောက်လုပ်ရေးလုပ်ငန်း လုပ်ကိုင်လိုသည့် အဆိုပြုချက်တင်ပြခြင်း

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ဟုန်ပန်းကုမ္ပဏီလီမိတက်မှ ကျိုင်းတုံ-တာချီလိတ်လမ်းပြုပြင်ဖောက်လုပ်ရေးလုပ်ငန်းလုပ်ကိုင်လိုသည့် အဆိုပြုချက်ကို ပြည်ထောင်စုမြန်မာနိုင်ငံတော် ရှေ့နေချုပ်ရုံး၏ ပြင်ဆင်ဖြည့်စွက်ချက်များနှင့်အညီ ပြုစုထားသော ပဋိဉာဉ်စာချုပ်(မူကြမ်း)ကို ပူးတွဲလျက် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ချမှတ်ပေးနိုင်ပါရန် အဆိုပြုလွှာ(၁၆)စုံကို ပေးပို့အပ်ပါသည် ။

ဝန်ကြီး(ကိုယ်စား)
(ဗိုလ်ကြီးကျော်ဝင်း၊ ရုံးအဖွဲ့မှူး)

မိတ္တူကို
- ဦးဆောင်ညွှန်ကြားရေးမှူး ၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

-/အိ**



ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
အမှတ်(၆၀) ရွှေတိဂုံဘုရားလမ်း - ရန်ကုန်မြို့

* * * * * * *

စာအမှတ်၊ ၄၀၅ / ငငဂ / လုပ်ငန်း(ဟုန်ပန်း)/ဝါချဉ်/၂၀၀၀
ရက်စွဲ၊ ၂၀၀၀ပြည့်နှစ်၊ ဇန်နဝါရီလ (၃၁) ရက်

အကြောင်းအရာ။ <u>ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့်ဟုန်ပန်းကုမ္ပဏီလီမိတက်တို့ချုပ်ဆိုမည့်ကျိုင်းတုံ-တာချီလိတ်လမ်းပြုပြင်ဖောက်လုပ်ရေးလုပ်ကိုင်ခွင့်ပြုရေးအတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ပေးပို့ပေးပါရန်ကိစ္စ</u>

အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့်ဟုန်ပန်းကုမ္ပဏီလီမိတက်တို့သည်၊ ကျိုင်းတုံ-တာချီလိတ်လမ်းပြုပြင်ဖောက်လုပ်ရေးလုပ်ငန်းလုပ်ကိုင်ခွင့်ပြုရေးပဋိညာဉ်စာချုပ်အား ရှေ့နေချုပ်ရုံးမှစိစစ်ပြီး၊ လိုအပ်ချက်များအားပြုပြင်ထားပြီးဖြစ်ပါ၍မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ခွင့်ပြုချက်ရယူနိုင်ရေးအတွက်ဝန်ကြီးရုံးမှတစ်ဆင့်ပေးပို့ပေးပါရန် တင်ပြအပ်ပါသည်။

<u>ပူးတွဲပါ</u>။ ။ (၃)စုံ

( နေစိုးနိုင် )
ဦးဆောင်ညွှန်ကြားရေးမှူး

<u>ဝန်ကြီးရုံး</u>
<u>ဆောက်လုပ်ရေးဝန်ကြီးဌာန</u>

<u>မြန့်ဝေခြင်း</u>
၁။ ဒု-ဦးဆောင်ညွှန်ကြားရေးမှူး (လုပ်ငန်း) } ပြည်သူ့ဆောက်လုပ်ရေး
၂။ ညွှန်ကြားရေးမှူး (ဘဏ္ဍာရေး) } လုပ်ငန်း (ရုံးချုပ်)
၃။ ဒါရိုက်တာ၊ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်
၄။ ရုံးလက်ခံ




HONG PANG CONSTRUCTION CO., LTD.

သို့
ဝန်ကြီး
ဆောက်လုပ်ရေးဝန်ကြီးဌာန၊
ရန်ကုန်မြို့။

စာအမှတ်။ ။HB , R 004-1412/99
ရက်စွဲ။ ။ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ (၁၄) ရက်။

အကြောင်းအရာ။ ။ မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ–တာချီလိတ် လမ်းမကြီး၏ (ကျိုင်းတုံ–တာချီလိတ်အပိုင်း)လမ်းပြုပြင်ဆောက်လုပ်ရေးအတွက်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ခွင့်ပြုမိန့်လျှောက်ထားခြင်းကိစ္စ။

ကျွန်တော်တို့၏ ဟုန်ပန်းဆောက်ရေး ကုမ္ပဏီလီမိတက်သည် ကျိုင်းတုံ–တာချီလိတ်အပိုင်း မိုင်တိုင်အမှတ် ၃၉၇/၄မှ၄၉၉/၆ထိ (၁၀၂)မိုင်(၂)ဖါလုံကို ကုမ္ပဏီ၏ ကုန်ကျငွေ ဖြင့်ပြုပြင်ဖေါက်လုပ်ရန်အတွက် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ လျှောက်ထားခြင်းဖြစ်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြရန်အဆိုပြုချက် (မူကြမ်း) ကို ပူးတွဲလျှက်တင်ပြအပ်ပါသည်။ အဆိုပြုချက်နှင့် ပဋိညာဉ်စာချုပ်(မူကြမ်း) အပေါ် လိုအပ်သလို လမ်းညွှန်မှုပေးပါရန်နှင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ဆက်လက်တင်ပြခွင့်ပြုပါရန် လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(ဦးခင်မောင်မြင့်)
ဒါရိုက်တာ
ဟုန်ပန်းဆောက်လုပ်ရေး
ကုမ္ပဏီလီမိတက်

**မိတ္တူကို –**
ဒုတိယဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
ဦးဆောင်ညွှန်ကြားရေးမှူး (ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်း)




**HONG PANG CONSTRUCTION CO., LTD.**

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်။
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၉ခုနှစ်၊ ဒီဇင်ဘာလ ( ၁၄ ) ရက်။

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့တင်ပြခြင်း။</u>

၁။ **ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတွင် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်းပိုင်၊ မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ–တာချီလိတ်လမ်းမကြီး (ကျိုင်းတုံ–တာချီလိတ် အပိုင်း) မိုင်တိုင်အမှတ် ၃၉၇/၄မှ၄၉၉/၆ထိ အား ခေတ်မီစက်ယန္တရားများ၊ ခေတ်မီနည်းပညာများအသုံးပြု၍ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသော စီချိန်စံညွှန်းများနှင့်အညီ (၂)နှစ်အတွင်း ကုမ္ပဏီ၏ ကုန်ကျငွေဖြင့် တည်ဆောက်ပြုပြင် ဖောက်လုပ်မည့်လုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှု ပြုလုပ်ပါမည်။

၂။ အဆိုပါ ဖောက်လုပ်ပြီးစီးသောလမ်းတွင် ဖြတ်သန်းသွားသော မော်တော်ယာဉ်များအား လမ်းအသုံးပြုခ ကောက်ခံသည့် လုပ်ငန်းကို ကနဦးနှစ်(၃၀) လုပ်ကိုင်ခွင့် ရရှိရန်အတွက် ပြည်ထောင်စု မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားအပ်ပါသည်။

၃။ သို့ပါ၍ **ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** ၏ အဆိုပြုလွှာကို လိုအပ်သလို စိစစ်ပေးနိုင်ပါရန် အဆိုပြုလွှာများ ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဦးခင်မောင်မြင့်
ဒါရိုက်တာ
ဟုန်ပန်းဆောက်လုပ်ရေး
ကုမ္ပဏီလီမိတက်




**HONG PANG CONSTRUCTION CO., LTD.**

---

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ ။ ။ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၄ ) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသား များ၊ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ နှင့် ၁၃ တို့အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။**

၁။ အထက်ပါ ကိစ္စနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်တို့၏ **"ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်"** သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ ဆောက်လုပ်ရေးလုပ်ငန်းပိုင်၊ မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ၊ တာချီလိတ် ပြည်ထောင်စုလမ်းမ ကြီး (ကျိုင်းတုံ–တာချီလိတ်အပိုင်း) မိုင်တိုင်အမှတ် ၃၉၇/၄မှ၄၉၉/၆ထိ ၊(၁၀၂)မိုင် (၂)ဖာလုံ ရှည်လျားသော လမ်းမကြီးအား ကုမ္ပဏီ၏ ကုန်ကျငွေဖြင့် (၂)နှစ်အတွင်း တည်ဆောက်ပြုပြင် ဖောက်လုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စု မြန်မာနိုင်ငံတော်တွင် ဆောင်ရွက်နိုင်ရန် ရည်ရွယ်၍ ခေတ်မီနည်းပညာ စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့် ရရှိနိုင်ရန် ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

၂။ ကျွန်တော်တို့၏ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက် သည် အဆိုပါလမ်းပြုပြင်တည်ဆောက် ခြင်းအတွက် လိုအပ်မည့် အမေရိကန်ဒေါ်လာ (၃၀)သန်း တန်ဖိုးရှိသော နိုင်ငံခြားငွေ၊ ခေတ်မီ စက်ကိရိယာများနှင့် ကုန်ကြမ်းပစ္စည်းများကို မလေးရှားနိုင်ငံရှိ Euro Tech Engineering and Machinery Sdn. Bhd. မှ ရွှေ့ဆိုင်းငွေပေးချေစနစ် (Deferred Payment System) ဖြင့် ဝယ်မည် ဖြစ်ပါသည်။ ၎င်းငွေအား (၁)နှစ်လျှင် အတိုးနှုန်း ၅%ဖြင့် (၁၅)နှစ်အတွင်း ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။

၃။ ကျွန်တော်တို့ကုမ္ပဏီအနေဖြင့်ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေ စုစုပေါင်းကျပ်(၃၀၀၀)သန်းကို မြန်မာကျပ်ငွေဖြင့် ထည့်ဝင်ပြီး ရင်းနှီးမြှုပ်နှံကြမည် ဖြစ်ပါသည်။ လမ်းတည်ဆောက်ပြုပြင်ဖောက်လုပ်ပြီး ကနဦးနှစ်ပေါင်း(၃၀)နှင့် တစ်ကြိမ်လျှင်(၅)နှစ်စီနှင့် နှစ်ကြိမ်အထိသက်တမ်းတိုးမြှင့်ကာလအတွင်း လမ်း၊တံတားအသုံးပြုခများကို ကောက်ခံမည်ဖြစ်ပြီး လမ်း၊တံတားအသုံးပြုခကောက်ခံရရှိသော အမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် လုပ်ငန်းများတွင် ပြန်လည်ပြီး ရင်းနှီးမြှုပ်နှံသွားရန် ရည်ရွယ်ပါသည်။

၄။ သို့ပါ၍ နိုင်ငံတော်၏ အဓိကရည်မှန်းချက်တစ်ရပ်ဖြစ်သော လမ်းပန်းဆက်သွယ်မှု လုံခြုံချောမွေ့စေရေး၊ ကုန်စည်စီးဆင်းမှု လျှင်မြန်သွက်လက်စေရေး အထောက်အကူပြုစေရန်အတွက်လည်းကောင်း နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများ ရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်း ရရှိစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်းအလို့ငှာလည်းကောင်း၊ ဒေသဖွံ့ဖြိုးရေးကို တစ်ဘက်တစ်လမ်းမှ အထောက်အကူပြုလာနိုင်စေရန်အတွက်လည်းကောင်း၊ လမ်းတံတားနည်းပညာရပ်များ တိုးပွားရရှိစေရန်အတွက်လည်းကောင်း၊ ကျွန်တော်တို့ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်၏ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန် ပြည်ထောင်စုမြန်မာနိုင်ငံတော်၊ နိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ (၁၂) နှင့် (၁၃) အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကိုလည်း ပေးအပ်ပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။ ကျိုင်းတုံ – တာချီလိတ်လမ်း ပြုပြင်ဖောက်လုပ်ခြင်းလုပ်ငန်းအတွက် နိုင်ငံခြားမှ တင်သွင်းရမည့် အချို့စက်ပစ္စည်းများနှင့် ယန္တရားများတစ်ချို့ကို နယ်စပ်ဒေသမှတဆင့် တင်သွင်းခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

၅။ ထို့အပြင် မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ–တာချီလိတ် ပြည်ထောင်စုလမ်းမကြီး (ကျိုင်းတုံ – တာချီလိတ်လမ်းအပိုင်း)အား ဆောက်လုပ်ရေး ဝန်ကြီးဌာနမှ သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့် အညီ ( ၂ )နှစ်အတွင်း တည်ဆောက်ပြုပြင်ဖောက်လုပ်ပြီးပါက ၄င်းလမ်းတွင် ဖြတ်သန်းသွားသောမော်တော်ယာဉ်များအားလမ်းအသုံးပြုခကိုမြန်မာကျပ်ငွေဖြင့်ကောက်ခံဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ အထက်ပါလျှောက်ထား မေတ္တာရပ်ခံချက်နှင့် အတူ အောက်ဖော်ပြပါ စာရွက်စာတမ်းများကို ပူးတွဲ တင်ပြအပ်ပါသည်။

(က) ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုရန် ကမကထပြုသူ၏ လုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုချက်၊

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ၊

(ဂ) ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

(ဃ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

လေးစားစွာဖြင့်

(ဦးခင်မောင်မြင့်)

ဒါရိုက်တာ

ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်



HONG PANG CONSTRUCTION CO., LTD.

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုမြန်မာနိုင်ငံတော်၊
ရန်ကုန်မြို့။

ရက်စွဲ။ ။ ၁၉၉၉ခုနှစ်၊ ဒီဇင်ဘာလ (၁၄) ရက်၊

**အကြောင်းအရာ ။ ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။**

အထက်ပါ အကြောင်းအရာနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်တို့၏ "ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်"သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင် မိတ္ထီလာ၊ တောင်ကြီး၊ ကျိုင်းတုံ၊ တာချီလိတ်၊ ပြည်ထောင်စု လမ်းမကြီး (ကျိုင်းတုံ–တာချီလိတ်လမ်းအပိုင်) မိုင်တိုင်အမှတ် ၃၉၇/၄ မှ ၄၄၉/၆ မိုင်အထိ အရှည်(၁၀၂)မိုင် (၂)ဖာလုံရှည်လျားသော လမ်းမကြီးအား ပြုပြင်ဖောက်လုပ်တည်ဆောက်ရန် ကနဦးနှစ်(၃၀)နှင့် တစ်ကြိမ်လျှင် (၅)နှစ်စီနှင့် နှစ်ကြိမ်သက်တမ်းတိုးမြှင့်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအား ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ဆောင်ရွက်နိုင်ရန်အတွက် ရည်ရွယ်၍ ခေတ်မီနည်းပညာ၊ စက်ကရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့် ရရှိနိုင်ရန် ပြည်ထောင်စု မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိရန် အတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင်ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။
ဤလုပ်ငန်းတွင်နိုင်ငံခြားမှမည်သူမျှပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်းကိုလည်း ဝန်ခံကတိပြုပါသည်။

(ဂ) နိုင်ငံတော် အစိုးရမှ လမ်းတံတား တည်ဆောက် ပြုပြင်ဖောက်လုပ်ခြင်း နှင့် ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ထို့အပြင် ကျွန်တော်များ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ နည်းဥပဒေ စည်းမျဉ်း၊ စည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေ ရန် အကောင်အထည်ဖော်ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(င) **ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** သည် Malaysia နိုင်ငံ Euro Tech Engineering and Machinery Sdn. Bhd. မှ Deferred Payment Loan Agreement ဖြင့် US$ 30,000,000/-ချေးယူခြင်းကိစ္စသည် နိုင်ငံတော်နှင့်သက်ဆိုင်ခြင်းမရှိပဲ၊ **Hong Pang Group** မှ လုပ်ကိုင်ဆောင်ရွက်နေသော စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ကုန်ထုတ်လုပ်မှု လုပ်ငန်းများ စသည့် လုပ်ငန်းများအပြင် အခြား ဝန်ဆောင်မှုလုပ်ငန်းများမှ ရရှိသော နိုင်ငံခြားငွေဖြင့် ပြန်လည်ပေးဆပ်ရန် တာဝန်ယူပါသည်။

လေးစားစွာဖြင့်

ဦးခင်မောင်မြင့်
ဒါရိုက်တာ
ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်




ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀(ရှမ်း)(စီ ၁၂၆၈)
ရက် စွဲ ၊ ၂၀၀၀ ပြည့်နှစ် ဧပြီလ ၄ ရက်

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်မှကျိုင်းတုံ-တာချီလိတ်လမ်းအပိုင်းကို ပြုပြင်ဖောက်လုပ်လုပ်ငန်းလုပ်ကိုင်ခွင့်အဆိုပြုချက်ထပ်မံတင်ပြခြင်း

ရည် ညွှန်း ချက်။

(၁) ဆောက်လုပ်ရေးဝန်ကြီးဌာန၏၂၀၀၀ပြည့်နှစ်ဖေဖော်ဝါရီလ (၇)ရက်နေ့စွဲပါ စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၂၀၀၀ (ရှမ်း)(စီ ၄၁၀)

(၂) ၂၀၀၀ပြည့်နှစ် မတ်လ (၁၆)ရက်နေ့တွင်ကျင်းပခဲ့သော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး

(၃) ရှမ်း(မြောက်)အထူးဒေသ(၂)ဟုန်ပန်းကုမ္ပဏီလီမိတက်၏ ၂၀၀၀ပြည့်နှစ် မတ်လ(၂၈)ရက်နေ့စွဲပါစာအမှတ်၊ HP R003, ၂၈၀၃/၀၀

၁။ အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ လုပ်ငန်းလုပ်ပိုင်ခွင့်ရရှိရေးအတွက် ဟုန်ပန်းကုမ္ပဏီလီမိတက်၏ အဆိုပြုလွှာကို ရည်ညွှန်း(၁)ပါစာဖြင့်ပေးပို့ခဲ့ရာ ရည်ညွှန်း(၂)ပါအစည်းအဝေးမှ လမ်း တံတား အသုံးပြုခကောက်ခံမည့်နှုန်းများ၊ များနေခြင်းအတွက် ပြန်လည်ညှိနှိုင်းတင်ပြရန် ဆုံးဖြတ်ခဲ့ပါသည် ။

၂။ အသုံးပြုခကောက်ခံမည့်နှုန်းများ၊ များနေခြင်းအတွက် ဟုန်ပန်းကုမ္ပဏီလီမိတက်နှင့် ညှိနှိုင်းခဲ့သော်လည်း အဆိုပြုလွှာပါနှုန်းများအတိုင်းပင်ခွင့်ပြုရေးအတွက် ရည်ညွှန်း(၃)ဖြင့် ပြန်လည်တင်ပြလာခဲ့ပါသည်။ ထိုနှုန်းများမှာ လားရှိုး-မူဆယ်(၁၀၂မိုင်၃ဖာလုံ)အတွက် အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်အားကောက်ခံခွင့်ပြုထားသော နှုန်းများထက်များနေသည်မှာ မှန်သော်လည်းယခုဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်မည့် ကျိုင်းတုံ-တာချီလိတ်လမ်းကို ဟုန်ပန်းကုမ္ပဏီမှ ပြုပြင်ဖောက်လုပ်လျက်ရှိရာ၌ လမ်းအကျယ်ကိုပေ(၃၀)အထိလည်းကောင်း၊ တံတားများကို (၃၅)ပေအထိလည်းကောင်း၊ အသီးသီးတည်ဆောက်နေသဖြင့် ရင်းနှီးမြှုပ်နှံကုန်ကျမှုများခြင်း၊ ထိုလမ်းကိုအသုံးပြုသည့်ယာဉ်များအဘို့ စရိတ်အနည်းငယ်ကြီးမှု ရှိနိုင်သော်လည်း ပြည်မအတွင်းကုန်စည်စီးဆင်းမှုစရိတ်ကိုအကြီးအကျယ်မထိခိုက်နိုင်ခြင်းစသောအကြောင်းများကိုစိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ ရှမ်း(မြောက်)အထူးဒေသ(၂) ဟုန်ပန်းကုမ္ပဏီလီမိတက်၏ အဆိုပြုတင်ပြသော လမ်း တံတားအသုံးပြုခနှုန်းများကို အထက်ဖော်ပြပါအကြောင်းများကို ထောက်ချင့်၍ လက်ခံခွင့်ပြုသင့်သည် ဟု ယူဆပါကြောင်း တင်ပြအပ်ပါသည် ။

ဝန်ကြီး (ကျော်ရင်)

မိတ္တူကို ကာကွယ်ရေးဦးစီးချုပ်ရုံး(ကြည်း)၊ ကာကွယ်ရေးဝန်ကြီးဌာန ။
- ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း ။

-/အိ**

ရှမ်း/မြောက်အထူးဒေသ (၂) ဟုန်ပန်း ကုမ္ပဏီလီမိတက်
ရှမ်းပြည်နယ်အရှေ့ပိုင်း၊ တာချီလိတ်မြို့

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်၊ HP , ROO 5, ၂၈၀၃/၀၀
ရက်စွဲ၊ (၂၈) ရက်၊ မတ်လ၊ ၂၀၀၀ ခုနှစ်

အကြောင်းအရာ။ ။ ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်း ပြုပြင်ဖောက်လုပ်ခြင်းအတွက် လမ်းတံတား အသုံးပြုခကောက်ခံနိုင်မည့် နှုန်းထားကို သတ်မှတ်ခွင့် ပြုပေးနိုင်ရန် လျှောက်ထားခြင်း။

၁။ အထက်ပါအကြောင်းအရာနှင့်ပတ်သက်၍ ကျွန်တော်များ “ ၀ ” အထူးဒေသ (၂) ဟုန်ပန်းကုမ္ပဏီမှ ကျိုင်းတုံ-မိုင်းဖြတ်-တာလေ-တာချီလိတ် လမ်းပိုင်းကို တာဝန်ယူဖောက်လုပ်လျှက်ရှိပါသည်။ ကျွန်တော်တို့ ကုမ္ပဏီသည် ဒေသတွင်း လမ်းပန်းဆက်သွယ်ရေးကောင်းမွန်ပြီး ဖွံ့ဖြိုးတိုးတက်လာနိုင်ရန် အတွက်လည်းကောင်း နိုင်ငံတော်၏ အခြေခံတည်ဆောက်မှုလုပ်ငန်းတွင် တက်ကြွစွာ ပါဝင်ဆောင်ရွက် လို၍လည်းကောင်း၊ အကျိုးအမြတ်ကို အဓိက ပဓာနမထားဘဲ စိတ်ရင်းစေတနာကောင်းဖြင့် လုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နေခြင်းဖြစ်ပါသည်။

၂။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ဒေသဖွံ့ဖြိုးရေးအတွက်သာမကဘဲ အိမ်နီးချင်းနိုင်ငံများနှင့် ရင်ဘောင် တန်းနိုင်ရေးနှင့် နိုင်ငံတော်၏ ကာကွယ်ရေးအတွက် လွန်စွာမှအရေးကြီးသော လမ်းဖြစ်ပါသည်။ ကျွန်တော်တို့ ကုမ္ပဏီမှ ကျိုင်းတုံ-တာချီလိတ်လမ်းကို အဖြစ်သဘောမျိုးပြုပြင်ဖောက်လုပ်နေခြင်း မဟုတ်ဘဲ ရည်ရွယ်ချက်ကြီးမားဥာဖြင့် စေတနာ ထက်သန်စွာ အရှုံးခံဖောက်လုပ်နေခြင်းဖြစ်ပါသည်။

၃။ ကျိုင်းတုံ-တာချီလိတ်လမ်းသည် ရာသီဥတုဆိုးရွားမှုနှင့် တောင်ပြိုကျမှုတို့ကြောင့် နှစ်ပေါင်းများစွာ သွားလာရေးပြတ်တောက်မှုအခက်အခဲများ ဖြစ်နေခဲ့ပါသည်။ (၁၀၂) မိုင် (၂) ဖာလုံရှိသော ခရီးကို ရက်ပေါင်းများစွာ သွားလာရသည့်အထိ ဆိုးရွားခဲ့ပါသည်။ သွားလာရေးခက်ခဲမှုကြောင့် ကုန်ဈေးနှုန်းများ အဆမတန်ကြီးမြင့်မှုရှိခဲ့ပါသည်။

ကျွန်တော်များ ကုမ္ပဏီမှ လမ်းကို ဖောက်လုပ်ပြီးစီးပါက(၁၀၂) မိုင် (၂) ဖာလုံ ခရီးကို (၃) နာရီခန့်ဖြင့် ခရီးရောက်ရှိနိုင်မည်ဖြစ်ပါသည်။ သွားလာရေးလွယ်ကူချောမွေ့မှုကြောင့် ယာဉ်များ သွားလာရာတွင် လွယ်ကူပြီး ယာဉ်ပျက်စီးခြင်းများ သက်သာ၍ သယ်ယူစရိတ်များကျဆင်းပြီး၊ ကုန်ဈေးနှုန်းကြီးမြင့်မှုကို လျှော့ကျစေနိုင်ပါသည်။

၄။ လမ်းအကျယ်မှာ ပေ(၃၀) ဖြစ်ပြီး၊ တန် (၄၀) အထက်ခံနိုင်ရည်ရှိရန် တည်ဆောက်ထားပါသည်။ တံတားများကိုလည်း (၃၅) ပေအကျယ်ရှိ တရုတ်ကျောက်စီခုံးတံတားအဖြစ် တည်ဆောက်ထားပြီး၊ တန် (၆၀) အထက်ခံနိုင်ရည်ရှိပါသည်။

[illegible] ရုံးသောက်ရှုပုံစံမှာ လက်ရှိ မူဃယ်-လားရှိုးလမ်းထက် များစွာအဆင့်မြင့်ပြီး၊ ရင်းနှီးမြှုပ်နှံ [illegible] များစွာပိုပါသည်။ သို့သော်ယာဉ်ဖြတ်သန်းမှုစီးရေမှာ မူဃယ်-လားရှိုးလမ်းထက် [illegible] များစွာ လျော့နည်းလျက်ရှိကြောင်းတွေ့ရှိရပါသည်။

၅။ လမ်းဖြတ်သန်းခ ကောက်ခံသည့် နှုန်းထားများကို တပြေးညီ၊ တသမတ်တည်း ပုံစံမျိုးမဟုတ်ဘဲ၊ လုပ်ငန်း အခြေအနေအရပ်ရပ်ကို လေ့လာသုံးသပ်ပြီး ဈေးနှုန်းသတ်မှတ်ပေးပါက ပို၍ ဆီလျော်မည်ဟု ယူဆပါသည်။

၆။ ကျိုင်းတုံ-ဘာဒီလိတ်လမ်း၏ လက်ရှိယာဉ်ဖြတ်သန်းမှုစီးရေမှာ (၁၀၀) ကျော်ခန့်သာရှိပါသည်။ [illegible] ကျွန်တော်များကုမ္ပဏီ၏ အရင်းကြေကာလမှာ (၂၀)နှစ်ခန့်ကြာမြင့်မည်ဖြစ်ပါသည်။ [illegible] တုံ-ဘာဒီလိတ် လမ်း၏ လမ်းတံတားဖြတ်သန်းမှုကောက်ခံသည့် နှုန်းထားကို ပြည်သူ [illegible] ဝန်ထုပ်ဝန်ပိုးမဖြစ်စေရန်နှင့် ကုမ္ပဏီ၏ ရင်းနှီးမြှုပ်နှံမှု များစွာ ဆုံးရှုံးမှုမဖြစ်စေရန် [illegible] အောက်ပါနှုန်းထားအတိုင်း ကောက်ခံခွင့်ပြုပါရန် လေးစားစွာ တင်ပြအပ်ပါသည်။

<u>လမ်းတံတားအသုံးပြုခနှုန်းများ</u>

| | | | |
|---|---|---|---|
| (၁) | ယာဉ်ငယ် (၁ တန်အောက်) | - ၁ စီးလျှင် ကျပ် | (၁၀၀) |
| (၂) | ယာဉ်လတ် (၁ တန်နှင့် ၂½တန်) | - ၁ စီးလျှင် ကျပ် | (၄၀၀) |
| (၃) | ခရီးသည်တင်ကား (ကုန်မပါ) | - ၁ စီးလျှင် ကျပ် | (၆၀၀) |
| (၄) | ထရပ်ကားများ (အလတ်) (၁၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၁၂၀၀) |
| (၅) | ထရပ်ကားများ (၂၀ တန်အထိ) | - ၁ စီးလျှင် ကျပ် | (၂၅၀၀) |

တန် (၂၀) နှင့် အထက်ယာဉ်များ နောက်ထပ် (၁) တန်ပိုတိုင်း ကျပ် (၃၀၀) ပေးဆောင်ရန် ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့် -

ခင်မောင်မြင့်
( ဒါရိုက်တာ )
ဟုန်ပန်းကုမ္ပဏီလီမိတက်၊
ဝ'အထူးဒေသ (၂)

မိတ္တူကို-

(၁) ဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၂) ဒုတိယဝန်ကြီး (ဆောက်လုပ်ရေးဝန်ကြီးဌာန)
(၃) [illegible] ညွှန်ကြားရေးမှူး (ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း)

သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းပိုင်းနှင့် ကျိုင်းတုံ – မိုင်းဖြတ် – တာချီလိတ်လမ်းပိုင်း
ဖောက်လုပ်မည့် လမ်းတံတားနှင့် အသုံးပြုခ ကောက်ခံမည့်နှုန်းထားများ နှိုင်းယှဉ်ချက်

သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းပိုင်းဖောက်လုပ်မည့် လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၆၆ မိုင် | ၁၂ ပေ | ၆ ပေ | ၁၈ ပေ |

သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| မရှိ | ၂ စင်း | ၄၅ စင်း | ၁၁၅ ခု | ၁၈ ပေ |

သိန္နီ – ကွမ်းလုံ – ချင်းရွှေဟော် လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် – ၃ ခု
(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် – ၁ နေ့လျှင် အစီး ၁၀၀ မှ ၂၀၀ခန့်
(၃) ကောက်ခံမည့်နှုန်းထား
   (က) ယာဉ်ငယ် (၁တန်အောက်) – ၁စီးလျှင် ကျပ်(၁၀၀)
   (ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) – ၁စီးလျှင် ကျပ်(၃၀၀)
   (ဂ) ခရီးသည်တင်ယာဉ်(အကြီး) – ၁စီးလျှင် ကျပ်(၅၀၀)
   (ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) – ၁စီးလျှင်ကျပ်(၁၀၀၀)
   (င) ထရပ်ကားများ(၂၀တန်ထိ) – ၁စီးလျှင်ကျပ်(၂၀၀၀)
   ၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၂၀၀)ပေးဆောင်ရမည်။

ကျိုင်းတုံ – မိုင်းဖြတ် – တာချီလိတ်လမ်းပိုင်းဖောက်လုပ်မည့်လမ်းအကျယ်အဝန်းနှင့်မိုင်ပေါင်း

| ဖောက်လုပ်မည့်လမ်းမိုင်ပေါင်း | ခင်းမည့် ကတ္တရာလမ်းအကျယ် | လမ်းပုခုံးအကျယ် | စုစုပေါင်းလမ်းအကျယ် |
|---|---|---|---|
| ၁၀၂ မိုင် | ၂၄ ပေ | ၆ ပေ | ၃၀ ပေ |

ကျိုင်းတုံ – မိုင်းဖြတ် – တာချီလိတ်လမ်းပိုင်းရှိ တံတားများစာရင်း

| တံတားကြီး ပေ ၃၀၀ အထက် | တံတားလတ် ပေ ၁၀၀ အထက် | တံတားငယ် ပေ ၁၀၀ အောက် | လမ်းဖြတ်ရေပြွန် ထည့်မည့်နေရာပေါင်း | တံတားနှင့်ရေပြွန်အကျယ် |
|---|---|---|---|---|
| ၃ စင်း | ၈ စင်း | ၄၂ စင်း | ၆၀၀ ခု | ၃၆ ပေ |

ကျိုင်းတုံ – မိုင်းဖြတ် – တာချီလိတ်လမ်းပိုင်း လမ်းတံတားအသုံးပြုခနှုန်းများ(အဆိုပြုဈေးနှုန်း)

(၁) ကောက်ခံမည့်ဂိတ်အရေအတွက် – ၄ ခု
(၂) ယခုလက်ရှိဖြတ်သန်းနေသည့်ယာဉ်အရေအတွက် – တနေ့လျှင် အစီး ၁၀၀ ခန့်
(၃) ကောက်ခံမည့်နှုန်းထား
   (က) ယာဉ်ငယ် (၁တန်အောက်) – ၁စီးလျှင် ကျပ်(၁၀၀)
   (ခ) ယာဉ်လတ် (၁တန်နှင့် ၂ ½ တန်) – ၁စီးလျှင် ကျပ်(၄၀၀)
   (ဂ) ခရီးသည်တင်(အကြီး) (ကုန်မပါ) – ၁စီးလျှင် ကျပ်(၆၀၀)
   (ဃ) ထရပ်ကားများ(အလတ်)(၁၀တန်ထိ) – ၁စီးလျှင်ကျပ်(၁၂၀၀)
   (င) ထရပ်ကားများ(၂၀တန်ထိ) – ၁စီးလျှင်ကျပ်(၂၅၀၀)
   ၂၀တန်နှင့်အထက်ယာဉ်များနောက်ထပ် ၁တန်ပိုတိုင်း ကျပ်(၃၀၀)ပေးဆောင်ရမည်။



မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏

အဆိုပြုချက်

ပုံစံ ( မနသ-၁)

## မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

## ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်

[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်မြို့။

စာအမှတ်။
ရက်စွဲ၊ ၁၉၉၉ ခုနှစ်၊ ဒီဇင်ဘာလ( ၁၄ ) ရက်။

ကျွန်တော် /ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန်အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏-

| | |
|---|---|
| (က) အမည် | - **ဦးခင်မောင်မြင့်** |
| (ခ) အဖအမည် | - **ဦးရန်ကျွမ်းကြည်** |
| (ဂ) နိုင်ငံသား / အမျိုးသားမှတ်ပုံတင်အမှတ် | - **၁၃ / တကန (နိုင်) ၀၆၇၂၉၂** |
| (ဃ) နေရပ်လိပ်စာ | - **အမှတ် (၅၂၅)၊ ကုန်သည်လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။** |
| (င) လူမျိုး၊ဘာသာ | - **ကိုးကန့်/ဗုဒ္ဓဘာသာ** |
| (စ) အဖွဲ့အစည်းအမည် | - **ဟုန်ပန်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်** |
| (ဆ) လုပ်ငန်းအမျိုးအစား | - **ဆောက်လုပ်ရေးလုပ်ငန်း** |
| (ဇ) အဖွဲ့အစည်းတည်နေရာအရပ် | - **အမှတ် (၅၂၅)၊ ကုန်သည်လမ်း၊ ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။** |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏–

(က) အမည် (၁) ........................ (၂) ..........................

........................ ..........................

........................ ..........................

(ခ) အဖအမည် (၁) ........................ (၂) ..........................

........................ ..........................

........................ ..........................

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်

(၁) ........................ (၂) ..........................

........................ ..........................

........................ ..........................

(ဃ) နေရပ်လိပ်စာ (၁) ........................ (၂) ..........................

........................ ..........................

........................ ..........................

(င) လူမျိုးဘာသာ (၁) ........................ (၂) ..........................

........................ ..........................

........................ ..........................

(စ) အဖွဲ့အစည်းအမည် ..........................................................

(ဆ) လုပ်ငန်းအမျိုးအစား ..........................................................

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် ..........................................................

..........................................................

( နှစ်ဦး သို့မဟုတ် အဖွဲ့အစည်း ၂ ခုထက်ပိုပါက သီးခြားစာရွက်တွင်ဖော်ပြပူးတွဲရန် )

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား–

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း –..........................................................

(ခ) ဝန်ဆောင်မှုလုပ်ငန်း – **ကျိုင်းတုံ–တာချီလိတ် ကားလမ်းအား တည်ဆောက်ပြုပြင်မွမ်းမံလုပ်၍ လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်း။**

( ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှုအမျိုးအစားကိုဖော်ပြရန် )

